# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ပုံစံ (မနသ-၂)

ခွင့်ပြုမိန့် အမှတ်၊မနသ-၁၀၅၃/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊ မေ လ ၇ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးသက်ဦး

(ခ) **အဘ အမည်** ဦးမောင်မောင်

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/လမတ(နိုင်) ၀၁၅၇၀၂

(ဃ) **နေရပ်လိပ်စာ** အမှတ်(၅)၊ (၁၅)လမ်း၊ (၇)ရပ်ကွက်၊ လမ်းမတော်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** သိဒ္ဓိထက်ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes၊ Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ ၁၄ ရပ်ကွက် ၊ အုတ်ကျင်းဘုတာရုံလမ်း၊ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)ရှိ မြေဧရိယာ (၇.၈၁၉) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ် ၂၀၀၀.၀၀ သန်း (US$ ၀.၄၁၃ သန်း အပါအဝင် ကျပ်သန်းပေါင်း နှစ်ထောင် တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၄၁ /၂၀၁၅(မနသ)
၂၀၁၅ ခုနှစ် မေလ ၇ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော သိဒ္ဓိထက်ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)ပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ ၁၄ရပ်ကွက်၊ အုတ်ကျင်း ဘူတာရုံလမ်းရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)၏ မြေဧရိယာ (၇.၈၁၉)ဧကတွင် စက်ရုံ၊ မြေနှင့် အဆောက်အဦများကို ငှားရမ်း၍ အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes၊Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်ကို ၂၀၁၅ ခုနှစ် ဧပြီလ (၃) ရက်နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၆/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်ကို အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes၊ Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊ မနသ-၁၀၅၃/၂၀၁၅ကို ထုတ်ပေးလိုက်သည်။

၂။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်းဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့် ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို ပြန်လည် ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ)အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်း အထိ ဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့်(၅)နှစ်ခံစား ပြီးနောက် လုပ်ငန်း၏ အမှန်တကယ် အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ် အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့် နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက် ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက် ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန် ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်း ကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံး အခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက် ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုး လျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက် ကုန်ထုတ် လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာ များ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက် များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့်ပစ္စည်းအမျိုးအစား၊ အရည် အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ သိဒ္ဓိထက်ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်သည် ဤခွင့်ပြုမိန့်အရလုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် တုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီးဖြစ်သော စက်မှုဝန်ကြီးဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)ပိုင် စက်ရုံ၊ မြေနှင့် အဆောက်အဦ အား ငှားရမ်းသည့် သဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာ ဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှား စာချုပ် လက်မှတ်ရေးထိုးသည့် နေ့မှစတင်၍ ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုးမြှင့်မည့် ကာလမှာ တစ်ကြိမ် လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ် ဖြစ်ပါသည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင် သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်သည် စက်ရုံ၊မြေနှင့်အဆောက်အဦများ၏ ငှားရမ်းခ နှုန်းထားအဖြစ် တစ်နှစ်လျှင် ကျပ် ၃၆၀၀၀၀၀၀ (ကျပ်သုံးဆယ့်ခြောက်သန်းတိတိ) အား စက်မှုဝန်ကြီး ဌာန၊ အမှတ်(၃) အကြီးစားစက်မှုလုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)သို့ ပေးသွင်းရမည်။

၉။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်သည် အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန် အတွက် ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)၊ အုတ်ကျင်းဘူတာရုံလမ်း၊ ၁၄ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးကို အငှားချထားသူ စက်မှုဝန်ကြီးဌာန၊ အမှတ်(၃)အကြီးစား စက်မှုလုပ်ငန်း (ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)နှင့် အငှားချထားခြင်းခံရသူ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်တို့ ချုပ်ဆိုမည့် စက်ရုံ၊မြေနှင့် အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ် ရေးထိုး၍ ထိုက်သင့်သော တံဆိပ် ခေါင်းခွန်များအား ဆောင်ပြီးသည့်အခါ ယင်းသဘောတူ စာချုပ် မိတ္တူ (၅) စောင်ကို ဤကော်မရှင်သို့ မပျက်မကွက် ပေးပို့တင်ပြရမည်။

၁၀။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက်ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)တို့ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှုအခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၁။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာ နှင့်ပတ်သက်၍ သတ်မှတ်ပြဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၁၂။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်သည် နိုင်ငံခြားသားကျွမ်းကျင်သူများ ငှားရမ်း ခွင့်ကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေဆိုင်ရာ လုပ်ထုံး လုပ်နည်းများ အခန်း(၉)၊ အပိုဒ် ၃၃ ပါ သတ်မှတ်ချက်များ နှင့်အညီ ဤကော်မရှင်သို့ သီးခြားတင်ပြ လျှောက်ထား ရမည်။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင်

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့်အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထားဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဉ်ဆောင်ရွက်ရမည်။

၁၃။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက် များနှင့်အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၄။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ တိကျစွာလိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ဆောင်ရွက်ထားမှုအခြေအနေကို ဤကော်မရှင်သို့**မပျက်မကွက်** အစီရင်ခံရမည်။

၁၅။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိဆောင်ရွက်ရမည်။

၁၆။ သိဒ္ဓိထက်ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်သည် ကနဦး လုပ်ငန်းဆောင်ရွက်မှု အစီရင်ခံ စာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်းအကောင် အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထား သော ပုံစံဇယား များဖြင့် (သုံး)လတစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ်စတင် ဆောင်ရွက်သည့်နေ့ရက်ကို စီးပွားဖြစ်စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၇။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသလိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ မပျက်မကွက်_တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၈။ သိဒ္ဓိထက်ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များ နှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

၁၉။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထား သော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၂၀။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင်ဆောင်ရွက် ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက်ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရက-၃/မ- ၁၁၄၄ / ၂၀၁၅ ( ၆၂၆- ၃ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် မေလ ၇ ရက်
**ဖြန့်ဝေခြင်း**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

လက်သုယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

သတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၃)အကြီးစားစက်မှုလုပ်ငန်း(ယခင်စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း)

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်မှုမြှင့်တင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်

ကုမ္ပဏီအမည် ။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်

လုပ်ငန်း ။ အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes၊ Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချခြင်း လုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၆-၁-၂၀၁၅ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေး ဦးစီးဌာန | ၃-၁-၂၀၁၅ | ၁၃-၂-၂၀၁၅ | |
| | - ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၃-၁-၂၀၁၅ | ၂၃-၂-၂၀၁၅ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန | ၃-၁-၂၀၁၅ | ၂၉-၈-၂၀၁၄ | |
| | - စက်မှုဝန်ကြီးဌာန | ၃-၁-၂၀၁၅ | ၁၉-၂-၂၀၁၅ | |
| | - စက်မှုဝန်ကြီးဌာန(ဒုတိယအကြိမ်) | ၂၇-၂-၂၀၁၅ | ၉-၂-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးတင်ပြခြင်း (၃/၂၀၁၅) | ၁၉-၁-၂၀၁၅ | - | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြားခြင်း | ၂၁-၁-၂၀၁၅ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးဆုံးဖြတ်ချက် ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၃-၂-၂၀၁၅ | | |
| ၆ | ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ချုပ်ဆိုထားသည့် မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း) တင်ပြခြင်း | ၁၁-၃-၂၀၁၅ | | |
| ၇ | ကုမ္ပဏီမှ ပြင်ဆင်ပြီး အဆိုပြုလွှာ ပေးပို့ခြင်း | ၁၇-၃-၂၀၁၅ | | |
| ၈ | စုစုပေါင်းကြာမြင့်ရက် | (၇၁)ရက် | | |

အကြောင်းအရာ။ **သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်မှ အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes၊ Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စနှင့်စပ်လျဉ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | ဦးသက်ဦး (အဘ-ဦးမောင်မောင်) |
| ၂။ | အဆိုပြုလုပ်ငန်းအမျိုးအစား | အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes၊ Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချခြင်း လုပ်ငန်း |
| ၃။ | လုပ်ငန်းတည်နေရာ | စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်းပိုင် မြေဧရိယာ(၇.၈၁၉)ဧက ကျယ်ဝန်းသော ကြွေရည်စိမ်ပစ္စည်း စက်ရုံခွဲ(လှိုင်)၊ အုတ်ကျင်းဘုတာရုံလမ်း၊ ၁၄ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၄။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | ကနဦး နှစ် ၅၀ သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၂၀၀၀.၀၀ သန်း ( US$ ၀.၄၁၃ သန်း အပါအဝင်)** |
| | - မြေနှင့်အဆောက်အဦငှားရမ်းခ | ကျပ် ၃၆.၀၀ သန်း |
| | -အဆောက်အဦဆောက်လုပ်စရိတ် | ကျပ် ၅၀၀.၀၀ သန်း |
| | - အဆောက်အဦ ပြုပြင်စရိတ် | ကျပ် ၂၀၀.၀၀ သန်း |
| | - စက်နှင့်စက်ပစ္စည်း(ပြည်ပဝယ်) | ကျပ် ၄၁၃.၀၀ သန်း ( US$ ၀.၄၁၃ သန်း ) |
| | - ငွေသား | ကျပ် ၈၅၁.၀၀ သန်း |
| ၆။ | တည်ဆောက်ရေးကာလ | (၁)နှစ် |
| ၇။ | (၆)နှစ်မြောက်တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းချမည့်ဈေးနှုန်း | |

| အမျိုးအမည် | ထုတ်လုပ်မှု (Pair) | ရောင်းဈေးနှုန်း (Kyat/Pair) |
|---|---|---|
| Shoes၊ Slipper and Sandals | | |
| Children | ၂၄၁,၅၇၇ | ၂,၅၀၀ |
| Kids | ၂၄၁,၅၇၇ | ၁,၅၀၀ |
| Lady | ၂၄၁,၅၇၇ | ၄,၀၀၀ |
| Men | ၂၄၁,၅၇၇ | ၃,၅၀၀ |

| | | |
|---|---|---|
| ၈။ | ကုမ္ပဏီ၏ဝင်ငွေ(၆ နှစ်မြောက်) | ကျပ် ၂၇၇၈.၁၃၀ သန်း |
| | အသုံးစရိတ်(၆ နှစ်မြောက်) | ကျပ် ၂၄၆၁.၃၁၁ သန်း |
| | အသားတင်အမြတ်(၆ နှစ်မြောက်) | ကျပ် ၃၁၆.၈၁၉ သန်း |
| ၉။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | ဝင်ငွေခွန် | ကျပ် ၁၀၅.၆၀၆ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၁၃၂.၂၉၂ သန်း |

| | | |
|---|---|---|
| ၁၀။ | အရင်းကြေကာလ | ၅ နှစ် ၁၀ လ |
| ၁၁။ | အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | ၁၉ % (အမေရိကန် တစ်ဒေါ်လာလျှင် ၁၀၀၀ကျပ်နှုန်းဖြင့် တွက်ချက် ထားပါသည်) |
| ၁၂။ | ရောင်းချပုံ နည်းစနစ် | ပြည်တွင်း ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ |
| ၁၃။ | ဝန်ထမ်းအင်အားစုစုပေါင်း | ၂၄၀ ဦး |
| | ပြည်တွင်း | ၂၃၇ ဦး (ပြည်တွင်းအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး ၏ လစာ ကျပ် ၅၀၀,၀၀၀) |
| | ပြည်ပ | ၃ ဦး (ပြည်ပအနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၇၀၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်း တစ်ဦး ၏ လစာ ကျပ် ၁,၀၀၀,၀၀၀) |
| ၁၄။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | ကုမ္ပဏီ၏ အမြတ်ငွေထဲမှ CSR အတွက် ၂% သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ |
| ၁၅။ | မီးဘေးကာကွယ်ရေး အစီအစဥ် | မီးဘေးအန္တရာယ် မဖြစ်ပွားစေရန်အတွက် ကြိုတင်ကာကွယ်တားဆီးမှု အစီအမံများအနေဖြင့် သံကူကွန်ကရက် (RC) ဖြင့် ရေဂါလံ(၅၀၀၀၀)ဆန့် ရေလှောင်ကန်ကြီးကို တည်ဆောက်ထားမည် ဖြစ်ကြောင်း၊ ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်၊ မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ကြောင်း၊ လုပ်ငန်းခွင်နေရာများတွင် မီးဘေးအန္တရာယ် တားဆီးကာကွယ်ရန် စည်းကမ်းချက်များထားရှိ၍ ဝန်ထမ်းများအား တိကျစွာလိုက်နာရန် စီမံထားရှိကြောင်း၊ အရေးပေါ် မီးသတ်နည်းပညာများ၊ ကာကွယ်နည်းများကို လေ့ကျင့်သင်ကြားပေးထားမည် ဖြစ်ကြောင်း၊ လုပ်ငန်းခွင်အတွင်း ဆေးလိပ်သောက်ခြင်းနှင့် လျှပ်စစ်အန္တရာယ်များ မဖြစ်ပေါ်အောင် ကြိုတင်ကာကွယ်နည်းများကို ထားရှိဆောင်ရွက်သွား မည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes၊ Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်၊ ၁၄ရပ်ကွက်၊ အုတ်ကျင်းဘူတာရုံလမ်းရှိ မြေဧရိယာ (၇.၈၁၉)ဧက ကျယ်ဝန်းသော ကြွေရည်စိမ် ပစ္စည်း စက်ရုံခွဲ (လှိုင်) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၂၀၀၀.၀၀ သန်း ( US$ ၀.၄၁၃ သန်း အပါအဝင်) |
| အရင်းကြေကာလ | - ၅ နှစ် ၁၀ လ |
| IRR | - ၁၉ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၀၄ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၂၀.၆၅ | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | ၈၃၃.၄၄ |
| ၅ | ဝင်ငွေခွန် | ၂၅၆.၇၀ | ၃၅၉.၃၈ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၄၆၉.၀၀ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၁၁)ဦး |
| ၈ | CSR (၂%) | - | ၃၄.၇၉ |
| ၉ | မြေငှားရမ်းခရငွေ | | ၂၅၂.၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၂၃၇) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ |
| | | ကျပ် ၂၇၉.၃၉ သန်း | ကျပ် ၁၉၄၉.၇၈ သန်း |
| | Cost : Benefit | ၁ း၇ | |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/ မ-၁၁၄၄/၂၀၁၅( ၅၂၁ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဧပြီ လ ၁ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**

**အမှာစာ**

အကြောင်းအရာ။ **သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်မှ အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes၊ Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်း ကိစ္စ**

၁။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်းပိုင် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်မြို့နယ်ရှိ ကြွေရည်စိမ်ပစ္စည်း စက်ရုံခွဲ(လှိုင်)၏ မြေဧရိယာ(၇.၈၁၉)ဧကတွင် စက်ရုံမြေနှင့် အဆောက်အဦများကို ငှားရမ်း၍ အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့်လူကြီးစီး Shoes၊ Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဦးသက်ဦး (အဘ-ဦးမောင်မောင်)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ(၀.၄၁၃)သန်း အပါအဝင် စုစုပေါင်း ကျပ် (၂၀၀၀.၀၀)သန်းဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | | | |
|---|---|---|---|---|
| (က) | မြေနှင့်အဆောက်အဦ ငှားရမ်းခ | ကျပ် | ၃၆.၀၀ | သန်း |
| (ခ) | အဆောက်အဦသစ်ဆောက် လုပ်စရိတ် | ကျပ် | ၅၀၀.၀၀ | သန်း |
| (ဂ) | အဆောက်အဦ ပြင်ဆင်စရိတ် | ကျပ် | ၂၀၀.၀၀ | သန်း |
| (ဃ) | စက်နှင့်စက်ပစ္စည်း (ပြည်ပဝယ်) | ကျပ် | ၄၁၃.၀၀ | သန်း ( US$ ၀.၄၁၃ သန်း ) |
| (င) | ငွေသား | ကျပ် | ၈၅၁.၀၀ | သန်း |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ်** | **၂၀၀၀.၀၀** | **သန်း ( US$ ၀.၄၁၃ သန်း အပါအဝင်)** |

၃။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းမှ ဝန်ထမ်း(၂၃၇) ဦးနှင့် ပြည်ပမှ ဝန်ထမ်း(၃)ဦး စုစုပေါင်း(၂၄၀)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၉၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာကျပ် ၇၀၀,၀၀နှင့် အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏လစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။

ကန့်သတ်

၄။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ကုန်ချောများကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းချမည့် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| အမျိုးအမည် | ထုတ်လုပ်မှု (Pair) | ရောင်းဈေးနှုန်း (Kyat/Pair) |
|---|---|---|
| Shoes၊ Slipper and Sandals | | |
| Children | ၂၁၇,၄၁၉ | ၂,၅၀၀ |
| Kids | ၂၁၇,၄၁၉ | ၁,၅၀၀ |
| Lady | ၂၁၇,၄၁၉ | ၄,၀၀၀ |
| Men | ၂၁၇,၄၁၉ | ၃,၅၀၀ |

၅။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဥ် | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂၇၇၈.၁၃၀ |
| (ခ) | အသုံးစရိတ် | ၂၄၆၁.၃၁၁ |
| (ဂ) | အသားတင်အမြတ် | ၃၁၆.၈၁၉ |

၆။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ်(၁၀၅.၆၀၆)သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ ကျပ်(၁၃၂.၂၉၂)သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ၁၀ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR)မှာ ၁၉% ဖြစ်ပါသည်။ အမေရိကန်တစ်ဒေါ်လာလျှင် ၁၀၀၀ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၇။ အဆိုပြုချက်နှင့်စပ်လျဥ်း၍ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိခြင်း၊ လုပ်ငန်းဆောင်ရွက်မှုကြောင့် မြို့နယ်ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်စေကြောင်း၊ အဆိုပြု လုပ်ငန်းလုပ်ကိုင်ရန် စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းပိုင် မြေဧရိယာ(၇.၈၁၉)ဧက ကျယ်ဝန်းသော ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)ရှိ မြေနှင့်အဆောက်အဦတို့အား (၁)နှစ်ငှားရမ်းခငွေကျပ် သိန်း(၃၆၀)နှုန်းဖြင့် (၅၀+၁၀+၁၀)နှစ် ငှားရမ်းလုပ်ကိုင်ခြင်း

အပေါ်ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါကြောင်း၊ လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြု လုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားကြောင်း (၁၉-၂-၂၀၁၅)ရက်နေ့ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် (၁၀/၂၀၁၅) ဆုံးဖြတ်ချက်အပိုဒ်(၈၅)အရ သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအားခွင့်ပြုသင့်ပါကြောင်းသဘောထားပြန်ကြားထားပါသည်။ **(နောက်ဆက်တွဲ-က)**

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) လုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့် တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွား ရန်။

(၂) လုပ်ငန်းကြောင့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုမရှိစေရေး သို့မဟုတ် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်မှုအနည်းဆုံးဖြစ်စေရေး တို့အတွက် လုပ်ငန်းမစတင်မီ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) လုပ်ငန်းများဆောင်ရွက်၍ အစီရင်ခံစာတင်ပြရန်။

(၃) လုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးတို့အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအမံများ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအမံများ၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ၊ အထူးသဖြင့် ရေဆိုးသန့်စင်စက်ရုံ တည်ဆောက်တပ်ဆင်မှု အစီအမံများ၊ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေး အစီအမံများ၊ စောင့်ကြည့်လေ့လာမည့် အစီအမံများ၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေးလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် သုံးစွဲမည့် ရန်ပုံငွေများ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan- EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများ နှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်သွားရန်။

**(ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အစီရင်ခံစာတို့အား Resource and Environment Myanmar Ltd. မှ တာဝန်ယူဆောင်ရွက်လျက်ရှိပြီး အစီရင်ခံစာအပြည့်အစုံကို မေလကုန်ပိုင်းတွင် ပေးပို့မည် ဖြစ်ကြောင်း ဝန်ခံကတိတင်ပြထားပါသည်။)** (နောက်ဆက်တွဲ - ခ)

(ဂ) **စက်မှုဝန်ကြီးဌာနမှ** ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားကိုက်ညီမှုမရှိပါသဖြင့် ပြန်လည် ပြင်ဆင်တင်ပြရန် လိုအပ်ကြောင်း သဘောထားပြန်ကြားလာပါသည်။**ကုမ္ပဏီမှ စက်မှုဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြ လာခြင်းအားစက်မှုဝန်ကြီးဌာနမှ ၆-၃-၂၀၁၅ ရက်နေ့တွင်ပြန်လည်စိစစ်ပြီးဖြစ်ပါသည်။** (နောက်ဆက်တွဲ - ဂ)

၈။ ငွေကြေးအထောက်အထားအဖြစ် ကမ္ဘောဇဘဏ်(လမ်းမတော်)တွင် ဦးသက်ဦး အမည်ဖြင့် (၂၈.၇.၂၀၁၄)နေ့တွင် ငွေလက်ကျန် ကျပ် ၂၀၂,၅၀၀,၈၀၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။

၉။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှုမရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ စက်မှုဝန်ကြီးဌာနသို့ ပေးသွင်းရမည့် မြေငှားရမ်းခများကို တိကျမှန်ကန်စွာ ပေးသွင်းမည် ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင်ဝင်ငွေကျပ်၂၀သိန်းအထက် ရရှိသော ဝန်ထမ်းများ၏လစာဝင်ငွေအပေါ် ကျသင့်မည့် ဝင်ငွေခွန်များအား မှန်ကန်စွာတွက်ချက်၍ ပေးဆောင်ပါမည် ဖြစ်ကြောင်း ဝန်ခံကတိပြုထား ပါသည်။

၁၀။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဝန်ထမ်းများအား ကြို/ပို့ယာဉ်များ စီစဉ်ပေးခြင်း၊ လူမှုဖူလုံရေးဥပဒေအရ ခံစားခွင့်များ အပြည့်အဝခံစားနိုင်ရန်နှင့် နောက်ပိုင်းပင်စင်ခံစားခွင့် ရရှိသည်အထိ အကျိုးဝင်ရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ အလုပ်ချိန်တွင် ဝန်ထမ်းများကို ကျန်းမာရေးနှင့် ကိုက်ညီသည့် အာဟာရပြည့်ဝသော အစားအစာများကို လုပ်ငန်းချိန်အလိုက် ကျွေးမွေးမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ ကျန်းမာရေး၊ သာရေး၊ နာရေးနှင့် ဝန်ထမ်းများ၏ သားသမီးများပညာရေးကိုထိရောက်စွာ ပံ့ပိုးနိုင်သည့် အစီအစဉ်များအား ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၁။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် ကိုယ်ပိုင်ထရန်စဖော်မာများဖြင့်

ကုန်ထုတ်လုပ်မှု စဉ်ဆက်မပြတ်စေရေးအတွက် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၂။ ကုမ္ပဏီမှ နှစ်စဉ် အသားတင်အမြတ်၏(၂)%ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR) အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၃။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် ဇန်နဝါရီလ ၁၉ ရက်နေ့တွင် ကျင်းပသော (၃/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည၊ ဋ) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

၁၅။ **စိစစ်တင်ပြချက်**

(က) စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းကြီးကြပ်မှုရှိ ကွေ့ရည်စိမ်ပစ္စည်း စက်ရုံခွဲ(လှိုင်)အား (၂၀-၂-၂၀၁၄)ရက်နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စု အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ်(၄/၂၀၁၄)၏ သဘောတူ ခွင့်ပြုချက်အရ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်သို့ ငှားရမ်းဆောင်ရွက်ခဲ့ခြင်း ဖြစ်ပါသည်။

(ခ) စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းနှင့် သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုသော ကွေ့ရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)အား ငှားရမ်း ဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့် လုပ်ကိုင်သည့် တတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း)အား ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြထားပါသည်။

(ဂ) ကွေ့ရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)အား ငှားရမ်းမည့် အချိန်ကာလမှာ ၅၀နှစ်နှင့် သက်တမ်း တစ်ကြိမ်လျှင်(၁၀)နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုး ငှားရမ်းနိုင်ကြောင်း စာချုပ်တွင် ဖော်ပြထားပါသည်။

(ဃ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးမှသာဖိနပ်တံဆိပ်သတ်မှတ်မည်ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်း လုပ်ငန်းပိုင် မြေဧရိယာ(၇.၈၁၉)ဧက ကျယ်ဝန်းသော ကွေ့ရည်စိမ်ပစ္စည်း စက်ရုံခွဲ(လှိုင်) ရှိ စက်ရုံမြေနှင့် အဆောက်အဦတို့အား ငှားရမ်းပြီး အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့်လူကြီးစီး Shoes၊ Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချ သော လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၄၂) / စိုက်မွေး
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီ လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃. ၂. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ မ - ၁၁၄၄ / ၂၀၁၅ (၁၆၅-ဆ)

၁။ သိဒ္ဓိထက် ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းပိုင် မြေဧရိယာ (၇. ၈၁၉)ဧက ကျယ်ဝန်းသော ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)ရှိ စက်ရုံမြေနှင့် အဆောက်အဦတို့အားငှားရမ်းပြီး အရည်အသွေးကောင်းမွန်သော အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes, Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချသောလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၃၀၀)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းပိုင် မြေဧရိယာ (၇. ၈၁၉)ဧက ကျယ်ဝန်းသော ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)ရှိ မြေနှင့် အဆောက်အဦတို့အား (၁)နှစ်ငှားရမ်းခငွေကျပ် သိန်း(၃၆၀)နှုန်းဖြင့် (၅၀+၁၀+၁၀)နှစ် ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/10.,(1)

၂။ အထက်ဖော်ပြပါ အချက်များကြောင့် (၁၉. ၂. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၁၀/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၈၅)အရ သိဒ္ဓိထက် ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးတိုင်းရင်းသားရေးရာဝန်ကြီး(ရခိုင်)
ရန်ကုန်အနောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
သိဒ္ဓိထက် ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/10.,(2)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPT-1220
20.2.2015

စာအမှတ် ၂/၂၂၀(ခ)(၄)(၁၃၁၄ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၉ ရက်

m-347
2312 သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃ - ၂ - ၂၀၁၅ ရက်စွဲပါစာအမှတ် ၊ ရက - ၃ / မ - ၁၁၄၄ / ၂၀၁၅ (၁၆၅.ဈ)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန ၊ စက္ကူ နှင့် အိမ်သုံးပစ္စည်းလုပ်ငန်းပိုင် မြေဧရိယာ (၇.၈၁၉) ဧက ကျယ်ဝန်းသောကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)ရှိ စက်ရုံမြေနှင့်အဆောက်အဦတို့အားငှားရမ်းပြီး အရည်အသွေးကောင်းမွန်သော အမျိုးသား ၊ အမျိုးသမီး ၊ ကလေး နှင့် လူကြီးစီး Shoes, Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ် ရောင်းချသောလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထား မှတ်ချက် ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့် အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ပထမနှစ် ( ၇၀ ) ဖြစ်၍ တည်ဆောက်မှုကာလမှာ(၁)နှစ် ကြာမြင့်မည်ဖြစ်ကြောင်း၊ မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်၊ ဝန်ထမ်းများ သက်သာချောင်ချိရေး နှင့် လုပ်ငန်းခွင်သာယာရေးအစီအစဉ်များ နှင့် မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်များ ဖော်ပြပါရှိပါသည် ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ကိစ္စရပ်များ နှင့်ပတ်သက်၍ စက်ရုံဝန်းကျင်တွင် လေကာပင်များစိုက်ပျိုးခြင်း ၊ လေထု ညစ်ညမ်းမှုနည်းသော စက်ပစ္စည်း နှင့် နည်းပညာများ အသုံးပြုလည်ပတ်ခြင်း ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရန် အတွက်လုပ်ငန်းခွင် စွန့်ပစ်အမှိုက်များ နှင့် ညစ်ညမ်းရေများကိုလည်း ရန်ကုန်မြို့တော်စည်ပင် သာယာရေးကော်မတီမှ ချမှတ်ထားသော စည်းမျဉ်း စည်းကမ်းများအတိုင်းလိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ အဆိုပြုဖိနပ်ထုတ်လုပ်ခြင်းလုပ်ငန်းဆောင်ရွက်ရာ၌ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများ တွင် Synthetic Leather (သားရေတု)၊ နိုင်လွန်ချည်မျှင်၊ဓာတုဗေဒနည်းဖြင့် ပြုလုပ်ထားသော ပိတ်စ နှင့် ကော်များ စသည့်တို့သည် အခြားသော သဘာဝပစ္စည်းများထက် ဆွေးမြေ့ပျက်စီးရန်

အချိန်ကြာမြင့်သဖြင့် မြေထုညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း ၊ ဖိနပ်ချုပ်လုပ်ခြင်း နှင့် ထုတ်လုပ်ခြင်း လုပ်ငန်း အဆင့်ဆင့်တို့မှ ထွက်ရှိလာမည့် ဖြတ်စများ ၊ အမှုန်အမွှားများ ၊ စွန့်ပစ်ပစ္စည်းများ နှင့် စွန့်ပစ်အရည်များကို စနစ်တကျမစွန့်ပစ်ပါက ရေထု ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း ၊ လုပ်ငန်းသုံး စက်ပစ္စည်းများကြောင့် စက်ရုံပတ်ဝန်းကျင်တွင် အသံညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက် မှ ကောင်းမွန်သော အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes, Slipper နှင့် Sandals ဖိနပ်များထုတ်လုပ်ရောင်းချသော လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်အား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) ဖိနပ်ချုပ်လုပ်ခြင်းလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်း ရေးဆွဲချမှတ်ခြင်း၊ ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ စက်ပစ္စည်းများကို အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် ကတိကဝတ်များ၊လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင် ၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်မှုမရှိစေရေး သို့မဟုတ် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် လုပ်ငန်းမစတင်မီ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) လုပ်ငန်းများဆောင်ရွက်၍ အစီရင်ခံစာတင်ပြရန်၊

(ဂ) အဆိုပါလုပ်ငန်းကြောင့် ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု မဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအမံများ ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအမံများ ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအမံများ ၊ အထူးသဖြင့် ရေဆိုးသန့်စင် စက်ရုံတည်ဆောက်တပ်ဆင် မှုအစီအမံများ ၊ လုပ်ငန်းခွင်ဘေးအန္တရာယ် ကင်းရှင်းရေး အစီအမံများ၊ စောင့်ကြည့် လေ့လာမည့်အစီအမံများ ၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် သုံးစွဲမည့် ရန်ပုံငွေများ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက် ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့ နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(မျိုးညွန့် ၊ ရုံး အ ဖွဲ့ မှူး)

မိတ္တူ -ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
-ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ (၂) ၂၀၁၄-၂၀၁၅ (၅၁၃၃)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၂.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၁၄၄/ ၂၀၁၅ (၁၆၅-ဈ)

၁။ သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်းကြီးကြပ်မှုရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)အား ငှားရမ်းပြီး အရည် အသွေးကောင်းမွန်သော အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့်လူကြီးစီး Shoes, Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာ ပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ် တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး အရည်အသွေးကောင်းမွန်သော အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့်လူကြီးစီး Shoes, Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေး ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးလုံခြုံရေးအစီအမံများနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေး အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ **စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန်** လိုအပ် ပါသည်။

( င) ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အမျိုးအစား ကိုက်ညီမှုမရှိပါသဖြင့် ပြန်လည်တင်ပြရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်မှ အရည် အသွေးကောင်းမွန်သော အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့်လူကြီးစီး Shoes, Slipper နှင့် Sandals ဖိနပ်များ ထုတ်လုပ်၊ ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၉.၂.၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ

“သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်”

**THEIKDI HTET TRADING COMPANY LIMITED**

မှ

စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းပိုင်

မြေ (၇. ၈၁၉)ဧက အားငှားရမ်း၍ အမျိုးသား၊ အမျိုးသမီး၊

ကလေး နှင့် လူကြီးစီး **Shoes, Slipper and Sandals** ဖိနပ်များ

ထုတ်လုပ်၊ ရောင်းချသော လုပ်ငန်းအား ဆောင်ရွက်မည့်

“အဆိုပြုလွှာ တင်ပြချက်”

BGR 34
2/1

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၄ -၂၀၁၅(၄၅၁၃)
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဒီဇင်ဘာလ ၃၁ ရက်

MT-4234
1.1.15

M-36
6.1.15

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)အား နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုရေးကိစ္စ

၁။ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းကြီးကြပ်မှုရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)အား ၂၀.၂.၂၀၁၄ ရက်နေ့တွင်ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၄/၂၀၁၄)၏ သဘောတူခွင့်ပြုချက်အရ Theikdi Htet Trading Co., Ltd. သို့ (၂၀ + ၅+ ၅)နှစ်ဖြင့် ငှားရမ်းဆောင်ရွက်ခဲ့ပါသည်။

၂။ Theikdi Htet Trading Co., Ltd. မှ အဆိုပါစက်ရုံတွင် ငွေကျပ်(၉၁၈.၇၀၀)သန်းရင်းနှီးမြှုပ်နှံ၍ သံပြားစတီးလ်ပြားများ ပုံဖော်ခြင်းလုပ်ငန်းနှင့် ရာဘာဖော့ဆိုးပြားအမျိုးမျိုးထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းတို့ကို ဆောင်ရွက်လျက်ရှိပြီး ယခုအခါ ငွေကျပ်သန်း(၂,၀၀၀) ထပ်မံရင်းနှီးမြှုပ်နှံ၍ အမျိုးသား၊ အမျိုးသမီး၊ ခလေးနှင့် လူကြီးစီး Shoes, Slipper and Sandals ဖိနပ်အမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းကို တိုးချဲ့ဆောင်ရွက်သွားမည်ဖြစ်ပါသဖြင့် (၅၀+ ၁၀+ ၁၀) နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။

၃။ သို့ပါ၍ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)ကို Theikdi Htet Trading Co., Ltd. သို့ (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုနိုင်ပါရန် ကုမ္ပဏီ၏အဆိုပြုလွှာအားပူးတွဲလျက် ထောက်ခံပေးပို့အပ်ပါသည်။

၃၁.၁၂.၁၄

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ရုံးအဖွဲ့မှူး)

မိတ္တူကို

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

# "သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်"

## အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့်လူကြီးစီး Shoes, Slipper and Sandals ဖိနပ်များအား ထုတ်လုပ်၊ ရောင်းချသော လုပ်ငန်းအား ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်း

**အညွှန်း**

| | | |
|---|---|---|
| ၁။ | ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်မည့်လုပ်ငန်းအား ခွင့်ပြုပေးပါရန် အဆိုပြု တင်ပြစာ | |
| ၂။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့်သက်သာခွင့်များ လျှောက်ထားစာ | |
| ၃။ | မနသ ပုံစံ(၁) | |
| ၄။ | ကတိဝန်ခံချက် | |
| ၅။ | ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဉ် | |
| ၆။ | မီးဘေးကာကွယ်မှု အစီအစဉ် | |
| ၇။ | သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ် | |
| ၈။ | လူမှုရေး အကျိုးပြုလုပ်ငန်း ဆောင်ရွက်မှုကို တင်ပြခြင်း | |
| ၉။ | စက်ပစ္စည်း ပုံများ | |
| ၁၀။ | ထုတ်လုပ်မည့် Shoes, Slipper and Sandals ဖိနပ်အမျိုးမျိုး ပုံများ | |
| ၁၁။ | အစုရှယ်ယာရှင်များနှင့် ဒါရိုက်တာများ စာရင်း | နောက်ဆက်တွဲ - (၁) |
| ၁၂။ | ဆောင်ရွက်မည့်လုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံမှုစာရင်းများ အစီအစဉ် | နောက်ဆက်တွဲ- (၂) မှ<br>နောက်ဆက်တွဲ- (၁၂) |
| ၁၃။ | စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းမှ ကြွေရည်စိမ်ပစ္စည်း စက်ရုံခွဲ(လှိုင်)အား ငှားရမ်းခြင်း သဘောတူစာချုပ် | နောက်ဆက်တွဲ- (၁၃) |
| ၁၄။ | ဘဏ္ဍာရေးအချက်အလက်များနှင့် အထောက်အထား စာရွက်စာတမ်းများ | နောက်ဆက်တွဲ- (၁၄) |
| ၁၅။ | ကုမ္ပဏီဆိုင်ရာ အထောက်အထား စာရွက်စာတမ်းများ | နောက်ဆက်တွဲ- (၁၅) |

# THEIKDI HTET TRADING CO., LTD.
## သိဒ္ဓိထက် ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်

TDT TRADING

NO.5, 15TH STREET, LANMADAW TOWNSHIP, YANGON 11131, MYANMAR.

TEL : 95-1-224925, 226340, 95-9-73205555 FAX : 95-1-2300799 EMAIL : thitdi@gmail.com


သို့

ဥက္ကဋ္ဌ၊

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊

<u>ရန်ကုန်မြို့။</u>

စာအမှတ် ။ ။ 001 / (THT) / MIC / 2014

ရက်စွဲ ။ ။ ၂၀၁၄ခုနှစ်၊ ဒီဇင်ဘာလ၊ ( )ရက်။

အကြောင်းအရာ။ ။ <u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။</u>

အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ မြန်မာနိုင်ငံသား တိုင်းရင်းသားလုပ်ငန်းရှင်များမှ ပိုင်ဆိုင်သော **“သိဒ္ဓိထက် ရောင်းဝယ်ရေး ကုမ္ပဏီ လီမိတက်”** (Theikdi Htet Trading Co., Ltd,) သည် စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းပိုင် မြေဧရိယာ (၇. ၈၁၉)ဧက ကျယ်ဝန်းသော ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)ရှိ စက်ရုံမြေနှင့် အဆောက်အဦတို့အား ငှားရမ်းပြီး အရည်အသွေးကောင်းမွန်သော အမျိုးသား၊ အမျိုးသမီး၊ ကလေးနှင့် လူကြီးစီး Shoes, Slipper and Sandals ဖိနပ်များအား ထုတ်လုပ်၍ ရောင်းချသော လုပ်ငန်းအား ရင်းနှီး၊ မြှုပ်နှံလုပ်ကိုင် လိုပါသည်။ အဆိုပါ လုပ်ငန်းအားလုပ်ကိုင်ပြီး ပြည်တွင်းဈေးကွက်တွင်သာမက ပြည်ပသို့ တင်ပို့ရောင်းချနိုင်သော အဆင့်အထိ ထုတ်လုပ်လိုပါသည်။

သို့ဖြစ်ပါ၍ ဖိနပ်အမျိုးမျိုး ထုတ်လုပ်သော လုပ်ငန်းအား ရင်းနှီးမြှုပ်နှံလုပ်ကိုင်မည့် အဆိုပြုချက်ကို တင်ပြပေးပို့ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

Theikdi Htet Trading Co., Ltd
No..........
Date..........

U Thet Oo
Managing Director
Theikdi Htet Trading Co., Ltd.

၅

(ဃ) လုပ်ငန်းများတိုးချဲ့ခြင်းနှင့် စက်ပစ္စည်းများထပ်မံတိုးချဲ့တပ်ဆင်ခြင်းများကို အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

(င) အငှားချထားသည့် စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား သတ်မှတ်ရက်အတွင်း အချိန်မီ ပေးဆောင်ရမည်ဖြစ်ပြီး၊ ပေးဆောင်ထားသည့် ပြေစာအထောက်အထား မိတ္တူများအား အငှားချထားသူထံ လစဉ်ပေးပို့ရမည်။

(စ) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီးမီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာထားရှိရမည်။

(ဆ) အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက်မရရှိဘဲ အဆောက်အဦပိုင်းဆိုင်ရာ ပုံစံပြောင်းလဲဆောက်လုပ်ခြင်း၊ တိုးချဲ့ဆောက်လုပ်ခြင်းများမပြုလုပ်ရ။

(ဇ) အငှားချထားသည့် ပစ္စည်းများကို တဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း၊ သို့မဟုတ် တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်း စသည်တို့လုံးဝ မပြုလုပ်ရ။

(ဈ) အငှားချထားသည့် စက်ရုံ၏အခြေအနေများကိုလည်းကောင်း၊ ထုတ်လုပ်ဖြန့်ဖြူး ရောင်းချ သည့် ပစ္စည်းများ၏ အရည်အသွေးကိုလည်းကောင်း၊ စစ်ဆေးရန်လိုအပ်ပါက အငှားချထားသူက နည်းလမ်းတကျလုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ် များကို ဝင်ရောက်ခွင့်ပြုရမည်။

(ည) အငှားချထားသည့် ပစ္စည်းများနှင့်ပတ်သက်၍ မြေခွန်မှအပ စည်ပင်သာယာခွန်နှင့် အခြား အခွန်အခများ နှင့် ထုတ်လုပ်မှုနှင့် သက်ဆိုင်သည့် အခွန်အခအမျိုးမျိုးကို ကျခံ ပေးဆောင်ရမည်။

(ဋ) ဤအငှားစာချုပ်သက်တမ်းကုန်သည့်အခါ အငှားချစက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေအတိုင်း ပြုပြင်မွမ်းမံထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုးအကြောင်း ဆီလျော်မှုရှိသောပွန်းပဲ့ခြင်းများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ဌ) စက်ရုံငှားရမ်းရေး စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ (၁၅) ရက်အတွင်း အငှားချထားသူအား အငှားချထားသည့် ပစ္စည်းအားလုံးကို ငှားရမ်းစဉ်အခြေအနေအတိုင်း အဖိုးစားနားမပါရှိဘဲ အငှားချထားသူ၏လက်ဝယ်အရောက် လွှဲပြောင်းပေးအပ်ရမည်။

(ဍ) အငှားချထားသည့် စက်ရုံတွင်တပ်ဆင်မှုများ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံးသည် ငှားရမ်းခြင်းစာချုပ် သက်တမ်းကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန်

ကန့်သတ်

၆

မလိုဘဲ အငှားချထားသူပိုင် ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။ အကယ်၍ မိမိတပ်ဆင်ထားသော ပစ္စည်းအား အငှားချသည့် အဆောက်အဦ လွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ် ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်းမပြုမီက တည်းက နှစ်ဖက်ညှိနှိုင်းအတည်ပြုချက်ရယူထားရမည်။ သို့ရာတွင် လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့်အခြားရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများကိုမူ ထားခဲ့ရန် မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(ဎ) စက်ရုံမှ မထုတ်လုပ်ဘူးသော ကုန်ပစ္စည်းအမယ်သစ်ကို ထုတ်လုပ်လိုပါက အငှားချထားသူ၏ ကြိုတင်ခွင့်ပြုချက်ရပြီးမှသာ ထုတ်လုပ်နိုင်ခွင့်ရှိသည်။

(ဏ) အငှားချထားသည့်စက်ရုံအတွက် အလုံးစုံအာမခံကို မြန်မာ့အာမခံလုပ်ငန်း ဥပဒေပါ ပြဌာန်းချက်များနှင့်အညီ ထားရှိရမည်ဖြစ်ပြီး ၊ အာမခံသက်တမ်းကျော်လွန်မှု မရှိစေရေး တာဝန်ယူ ဆောင်ရွက်ရမည်။

(တ) အငှားချထားသည့်စက်ရုံမှ ထွက်ရှိသောအခိုးအငွေ့များနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ ရေထု ၊ လေထု တို့ကိုညစ်ညမ်းအောင်မပြုရ။

(ထ) အငှားချထားခြင်းခံရသူသည် ငှားရမ်းစက်ရုံနှင့်ပတ်သက်၍ ပတ်ဝန်းကျင်အတွက် အနှောက်အယှက်ဖြစ်စေမည့် ဆူညံသံများ၊ အခြား အနှောက်အယှက်ဖြစ်စေမည့် အန္တရာယ်ကိုကြိုတင်ကာကွယ်တားဆီးရမည်။ အကယ်၍ မလွှဲမရှောင်သာဘဲ ဖြစ်ပွားပါကအငှားချထားခြင်းခံရသူကကိစ္စကျေနပ်ပြီးဆုံးသည့်တိုင်အောင်တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်။

(ဒ ) အငှားချထားသည့် စက်ရုံတွင်ခွင့်ပြုထားသည့် လုပ်ငန်းမှအပ ဥပဒေနှင့်မညီညွှတ်သော လုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်ခြင်းမပြုရ။

(ဓ ) အငှားချထားခြင်းခံရသူမှ ဆောင်ရွက်မည့် လုပ်ငန်းအတွက် သက်ဆိုင်ရာဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး အငှားချထားသူထံမိတ္တူတစ်စုံအပ်နှံထားရမည်။

(န) အငှားချထားသည့်စက်ရုံ၏ အုပ်ချုပ်မှုနှင့် ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် ဒီဇယ်၊ ဓါတ်ဆီတို့အား အငှားချထားခြင်းခံရသူ၏ အစီအမံဖြင့် စီစဉ်ဆောင်ရွက်ရမည်။

(ပ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက် လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့အတွက် ကျသင့်ငွေများအား စွမ်းအင်ဝန်ကြီးဌာန၏ သတ်မှတ်နှုန်းထား အတိုင်းပေးချေရမည်။

(ဖ) စက်ရုံရှိ မော်တော်ယာဉ်များနှင့်ပတ်သက်၍ စက်သုံးဆီနှင့်ပြုပြင်ထိန်းသိမ်းမှုများကို အငှားချထားခြင်းခံရသူမှ တာဝန်ယူဆောင်ရွက်ပေးရမည်။

ကန့်သတ်

၇

**အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

[illegible]။ အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာအောက်ပါအတိုင်းဖြစ်ပါသည်-

(က) အငှားချထားခြင်းခံရသူအား အငှားချထားသည့် ပစ္စည်းများကို အသုံးပြု၍ ကုန်ပစ္စည်းများ ထုတ်လုပ်ခွင့်ပေးရမည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ရေ၊ တယ်လီဖုန်းတို့ကို အငှားချခြင်းခံရသူအား ဆက်လက်အသုံးချခွင့်ပြုရမည်။

(ဂ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ရေ၊ တယ်လီဖုန်းတို့ကို အငှားချခြင်းခံရသူအားဆက်လက်အသုံးချခွင့်ပြုရမည့်အပြင် စက်ရုံတွင် အသုံးပြုသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်းနှင့် ဆက်သွယ်ရေးဆိုင်ရာ အသုံးပြုကြေးနှင့် အခွန်အခများအား အငှားချထားခြင်းခံရသူမှ လစဉ် အချိန်မီ ပေးဆောင်မှု ရှိ/မရှိ စိစစ်ရမည်။

(ဃ) အငှားချထားသည့်စက်ရုံ၏ ကုန်ထုတ်လုပ်မှုအတွက်လိုအပ်သည့် မီးထိုးဆီနှင့် သဘာဝဓါတ်ငွေ့များ ရရှိရေးအတွက် သက်ဆိုင်ရာဌာနများနှင့် ညှိနှိုင်းဆောင်ရွက်ပေးရမည်။

(င) အငှားချထားသည့် စက်ရုံအခြေအနေများကို လည်းကောင်း ထုတ်လုပ်ဖြန့်ဖြူးရောင်းချသည့် ပစ္စည်းများကို လည်းကောင်း နည်းလမ်းတစ်ကျ လုပ်ပိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များစေလွှတ်၍ စစ်ဆေးနိုင်ခွင့်ရှိသည်။

(စ) စက်ရုံအတွက်ကျသင့်သည့်မြေခွန်ကို ပေးဆောင်ရမည်။

(ဆ) အငှားချထားသည့်စက်ရုံနှင့် သက်ဆိုင်သော အာမခံများ၏ အာမခံသက်တမ်း ကျော်လွန်မှု မရှိစေရေးကြပ်မတ်ဆောင်ရွက်ရမည်။

**[illegible]ချုပ်သက်တမ်းတိုးခြင်း**

[illegible]။ အငှားချထားခြင်းခံရသူသည် စက်ရုံငှားရမ်းရေးစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက် အငှားချ[illegible]ရုံကို ဆက်လက်ငှားရမ်းလိုပါက နောက်ထပ်ငှားရမ်းလိုသည့်ကာလနှင့် ငှားရမ်းခနှုန်းထားကို [illegible]ချက် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် အငှားချထားသူထံ စာချုပ်သက်တမ်းမကုန်ဆုံးမီ(၃) [illegible]ကြိုတင်၍စာဖြင့်တင်ပြရမည်။ ထပ်မံငှားရမ်းမည့်ကာလအတွက် နှစ်စဉ်ငှားရမ်းခနှုန်းထားကို [illegible]နှစ်ဖက် ညှိနှိုင်းသက်မှတ်ရမည်။ စာချုပ်သက်တမ်းတိုးခြင်း၊ စာချုပ်အတည်ဖြစ်ခြင်း ၊ စာချုပ် [illegible]ခြင်း၊ စာချုပ်ရုပ်စဲခြင်းတို့သည် အမှတ်(၁)စက်မှုဝန်ကြီးဌာန စီမံခန့်ခွဲရေးကော်မတီ၏ အတည် [illegible]ရရှိမှသာ အတည်ဖြစ်စေရမည်။

၈

## အငြင်းပွားမှုဖြေရှင်းခြင်း

[illegible]။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှု တစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို [illegible]သော နည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက်ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်းမရနိုင်ပါက ဥပဒေ [illegible] သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကို ခံယူရမည်။

## သယံဇာတပစ္စည်းဆိုင်ရာကိစ္စ

[illegible]။ ဤစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့် မြေ၏မြေပေါ်မြေအောက်မှ [illegible]ပင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ၊ သဘာဝသယံဇာတပစ္စည်း [illegible]ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့ တွေ့ရှိလျှင် ထိုပစ္စည်းများကို [illegible]ချထားသူက ပိုင်ဆိုင်ရမည့်အပြင် အငှားချထားသူသည် ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရ [illegible]ည်းသို့ လွှဲပြောင်းတင်ပြရမည်။ အငှားချထားသူသည် အဆိုပါ သယံဇာတပစ္စည်းများကို [illegible]သည့် အချိန်တွင် မဆိုလွတ်လပ်စွာ တူးဖော်ပိုင်ခွင့်ရှိစေရမည်။

## ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

[illegible]။ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်း ကာလကုန်ဆုံးသည့် အခါ [illegible] ငှားရမ်းခြင်းရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) ရပ်စဲသည့်နေ့ [illegible] ( [illegible] )လအတွင်း အငှားချထားသည့်စက်ရုံ၊ မြေ၊ အဆောက်အဦများကို အငှားချထားသူသို့ [illegible]နာမပါရှိဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်။

## မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

[illegible]။ မလွန်ဆန်နိုင်သောဖြစ်ရပ်ဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ [illegible]ဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ [illegible]ဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် [illegible]တစ်ဖက်ဖက်က လိုအပ်သောသတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှား [illegible]လားတူ ဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် [illegible]ချထားခြင်းခံရသူသည် အငှားချထားသူတို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် [illegible]။

ထိုသို့ မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ (၃) ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ခြင်း စာဖြင့်ရေးသားအကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး စက်ရုံ၊ အဆောက်အဦးနှင့်စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ရမည့်အပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

**စာချုပ်အတည်ဖြစ်ခြင်း**

၂၁။ ဤစာချုပ်သည် အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့ လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ အတည်ဖြစ်သည်။

**စာချုပ်ပြင်ဆင်ခြင်း**

၂၂။ ဤစာချုပ်ပါစည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ပြုလုပ်လိုပါက အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့၏ နှစ်ဦးနှစ်ဖက်တရားဝင်စာဖြင့်သဘောတူညီချက်နှင့် အမှတ်(၁)စက်မှုဝန်ကြီးဌာနစီမံခန့်ခွဲရေးကော်မတီ၏ အတည်ပြုချက်အရသာ ပြုလုပ်နိုင်သည်။

၂၃။ အငှားချထားသည့်ခံရသူမှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရတွက်ချေကိုက်မှုမရှိခြင်း၊ ပြုပြင်ပြောင်းလဲ အဆင်မပြေမှုများရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်းဆွေးနွေးရန် (၃)လကြိုတင် အကြောင်းကြားရမည်။

**စာချုပ်ရပ်စဲခြင်း**

၂၄။ စာချုပ်ရပ်စဲခြင်းနှင့်ပတ်သက်၍ အောက်ပါအကြောင်းအရပ်များတစ်ခုခု ဖြစ်ပေါ်လာပါက စာချုပ်ကို ရပ်စဲခွင့်ရှိသည်-

(က) မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း အစရှိသော မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့်ဖြစ်စေ အငှားချထားသည့်စက်ရုံရှိ ပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

(ခ) စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အားရပ်စဲလိုပါက ရပ်စဲလိုကြောင်းစာချုပ်ဝင်တစ်ဖက်ဖက်မှ အခြားတစ်ဖက်သို့ (၃)လကြိုတင်နို့တစ်ပေးခြင်း။

(ဂ) စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို အငှားချထားခြင်းခံရသူမှ ဖောက်ဖျက်ကျူးလွန်ခြင်း။

(ဃ) အငှားချထားခြင်းခံရသူက လူမွဲအဖြစ်ခံယူသွားခြင်း။

(င) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

စာချုပ်သက်တမ်းမကုန်ဆုံးသေးသော်လည်း နိုင်ငံတော်၏ လိုအပ်ချက်အရ ဖြစ်စေ၊ ပုဂ္ဂလိက ...လုပ်ရန်ဖြစ်စေ အငှားချထားသူမှ (၃) လ ကြိုတင်အကြောင်းကြား၍ စာချုပ်ကို ရပ်စဲနိုင်သည်။ ...းသို့ဆောင်ရွက်ရာတွင် အမှတ်(၁)စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီသို့ တင်ပြအတည် ...ချက်ရယူရမည်။

**...န်လည်ဝင်ရောက်ပိုင်ခွင့်**

...။ အငှားချထားခြင်းခံရသူသည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်(သို့) ...က်နာရန် ပျက်ကွက်ခြင်းကြောင့် အငှားချထားသူကယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန်(သို့) ...က်နာရန် အငှားချထား ခြင်းခံရသူသို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ...လအတွင်းလိုက်နာမှုမရှိပါက အငှားချထားသူသည် အငှားချထားသည့်စက်ရုံကို ပြန်လည်ဝင် ...က်လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် ...းချထားသူက အငှားချထားခြင်းခံရသူထံမှ ရရန်ရှိသော ငှားရမ်းခ(သို့) ပျက်စီးဆုံးရှုံးမှု အတွက် ...ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

...။ ဤစာချုပ်တွင်ပါရှိသော မြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသ ...သည်။

...။ အထက်ဖော်ပြပါစည်းကမ်းချက်များကို သဘောတူလက်ခံပါသဖြင့် အောက်ပါအသိသက်သေ ...အလင် ရှေ့မှောက်တွင် ၂၀၁၁ ခုနှစ်၊ စက်တင်ဘာလ(၂၀)ရက်နေ့ ၌ အငှားချထားသူနှင့် ...းချထားခြင်းခံရသူတို့ လက်မှတ်ရေးထိုး ကြပါသည်-

| အငှားချထားသူ(ကိုယ်စား) | အငှားချထားခြင်းခံရသူ(ကိုယ်စား) |
|---|---|
| (signature) | (signature) |
| ဦးမောင်မောင်တိုး | ဦးသက်ဦး |
| ဦးဆောင်ညွှန်ကြားရေးမှူး | **Executive Director** |
| (မြန်မာ့အိမ်သုံးပစ္စည်းလုပ်ငန်း) | **(CHU INTERNATIONAL CO.,LTD)** |

## အသိသက်သေများ

လက်မှတ်

အမည် ဦးမင်းအောင်

ရာထူး အထွေထွေမန်နေဂျာ(စီမံကိန်း)

လိပ်စာ မြန်မာအိမ်သုံးပစ္စည်းလုပ်ငန်း

လက်မှတ်

အမည် ဦးခင်မောင်ဦး

မှတ်ပုံတင်အမှတ် ၁၂/လမတ(နိုင်)၀၀၉၈၆၅

လိပ်စာ အမှတ်(၅)၊ ၁၅ လမ်း
လမ်းမတော်မြို့နယ်။

လက်မှတ်

အမည် ဒေါ်ဇေယျာနွယ်

ရာထူး အထွေထွေမန်နေဂျာ(ငွေစာရင်း)

လိပ်စာ မြန်မာအိမ်သုံးပစ္စည်းလုပ်ငန်း

လက်မှတ်

အမည် ဒေါ်တင်စန်း

ရာထူး စက်ရုံမှူး

လိပ်စာ ကြွေရည်စိမ်ပစ္စည်းစက်ရုံ(လှိုင်)

<u>ကန့်သတ်</u>

နောက်ဆက်တွဲ-(၁၃)

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## စက်မှုဝန်ကြီးဌာန

## စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

## သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်

တို့

ချုပ်ဆိုသော

## ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)အား ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့်လုပ်ကိုင်သည့် ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၄ ခုနှစ် ဇူလိုင် လ ( ၁၆ ) ရက်

<u>ကန့်သတ်</u>

contracts\CLO\repair contracts_enamel(Naing)CLO(FINAL)

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

စက်မှုဝန်ကြီးဌာန

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

နှင့်

သိဒ္ဓိထက်ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက်တို့ ချုပ်ဆိုထားသော

ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်) အား ငှားရမ်းသည့် သဘောတူစာချုပ်အပေါ်

ဒုတိယအကြိမ် ပြင်ဆင်ချက်သဘောတူစာချုပ်

ဤ ပြင်ဆင်ချက် သဘောတူစာချုပ်ကို ၂၀၁၄ ခုနှစ် ဇူလိုင် လ (၁၆)ရက်နေ့တွင် နေပြည်တော်ရှိ ဦးရည်မွန် ၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော စက္ကူနှင့်အိမ်သုံးပစ္စည်း လုပ်ငန်း( နောင်တွင် "အငှားချထားသူ" ဟု ခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံ သူများနှင့် ဥပဒေ အရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) ကတစ်ဖက်နှင့် ဦးသက်ဦး အမျိုးသားမှတ်ပုံတင်အမှတ်၊ ၁၂/လမတ(နိုင်) ၀၁၅၇၀၂ ကိုယ်စားပြုသော သိဒ္ဓိထက်ရောင်းဝယ်ရေး ကုမ္ပဏီလီမိတက် အမှတ်(၅) (၁၅)လမ်း၊လမ်းမတော်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး (နောင်တွင်အငှားချထားခြင်းခံရသူဟုခေါ်ဆိုမည်ဖြစ်ပြီး ယင်းစကားရပ်၌၎င်းအားဆက်ခံသူများ တရားဝင် ကိုယ်စားလှယ်များ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။ ) က အခြားတစ်ဖက် တို့သည် အောက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦး သဘောတူစာချုပ်ချုပ်ဆိုကြပါသည်-

(က) ရန်ကုန်တိုင်းဒေသကြီး လှိုင်မြို့နယ်၊ (၁၄)ရပ်ကွက်၊ အုတ်ကျင်းဘူတာရုံလမ်းရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)၏ မြေ(၄.၅၃၅)ဧကနှင့် စက်ရုံ၊မြေ၊ အဆောက်အဦများအား တစ်နှစ် သက်တမ်းငှားရမ်း၍ သံပြား၊ စတီးလ်ပြားများ ပုံဖော်ခြင်းလုပ်ငန်းနှင့် ရာဘာဖော့ဆိုးလ်ပြားများအား ထုတ်လုပ်ခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် သဘောတူ စာချုပ်ကို ၂၀၁၂ ခုနှစ် အောက်တိုဘာလ(၁)ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ် (နောင်တွင် မူလ စာချုပ်ဟု ခေါ်ဆိုမည်ဖြစ်ပါသည်။)ချုပ်ဆို၍ လုပ်ငန်းများ ဆောင် ရွက်ခဲ့ပါသည်။

(ခ) ယင်းသို့လုပ်ငန်းဆောင်ရွက်ရာတွင် မူလမြေဧက (၄.၅၃၅)ဧကမှ (၇.၈၁၉)ဧက အထိ စက်ရုံတစ်ခုလုံးအား ငှားရမ်းခတိုးမြှင့်၍ နှစ်ရှည်ငှားရမ်းမည့် မူလစာချုပ်၏ သက်တမ်းကို (၁.၁၀.၂၀၁၂)မှ (၃၀.၉.၂၀၂၂)ထိ (၁၀)နှစ် သက်တမ်းတိုးမြှင့်သည့် ပြင်ဆင်စာချုပ်အား ၂၀၁၃ခုနှစ် ဇူလိုင်လ(၁၂)ရက်နေ့တွင် နှစ်ဦးသဘောတူစာချုပ် (နောင်တွင် ပြင်ဆင် စာချုပ်ဟုခေါ်ဆိုမည်ဖြစ်ပါသည်)စာချုပ်ချုပ်ဆို၍ လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။

ကန့်သတ်

၂

(ဂ) အပိုဒ်(ခ)ပါစာချုပ်ပြင်ဆင်ခြင်းနှင့်ပတ်သက်၍ ဤလုပ်ငန်းမှ သဘောတူခဲ့ပြီး စက်မှုဝန်ကြီးဌာန၏(၂၉-၃-၂၀၁၃)ရက်နေ့ကျင်းပသည့်ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေး အမှတ်စဉ် (၂၇/၂၀၁၂-၂၀၁၃)ဖြင့် ခွင့်ပြုပြီး ဖြစ်ပါသည်။

(ဃ) စာချုပ်၏ သက်တမ်းကို (၁.၁၀.၂၀၁၂)မှ (၃၀.၉.၂၀၃၂)ထိ (၂၀)နှစ်နှင့် သက်တမ်းတိုးမြှင့်လိုပါက တစ်ကြိမ်လျှင် (၅)နှစ်ဖြင့် (၂)ကြိမ် သက်တမ်းတိုးမြှင့်ငှားရမ်းလိုခြင်းကြောင့် ဒုတိယအကြိမ် ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်ကို စာချုပ်ဝင်များအကြား ချုပ်ဆို ခြင်းဖြစ်ပါသည်။

(င) အဆိုပါပြင်ဆင်ခြင်းနှင့်ပတ်သက်၍ စက်မှုဝန်ကြီးဌာန၏ (၁၃-၁၁-၂၀၁၃) နေ့ကျင်းပသည့် ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေး အမှတ်စဉ် (၁၇/၂၀၁၃-၂၀၁၄)ဖြင့် ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

(စ) ဤပြင်ဆင်ချက်အား ပြည်ထောင်စုအစိုးရအဖွဲ့၏ (၂၀.၂.၂၀၁၄)ရက်စွဲပါ ခွင့်ပြုချက်အမှတ်( ၄/၂၀၁၄ )ဖြင့်ခွင့်ပြုခဲ့ပြီးဖြစ်ပါသည်။

သို့ပါ၍ စာချုပ်ဝင် နှစ်ဦးနှစ်ဖက်တို့သည် မူလစာချုပ်နှင့် ပြင်ဆင်စာချုပ်ကို ပြင်ဆင်သည့် ဤ ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်အား အောက်ပါ သဘောတူညီချက်များနှင့်အညီ ချုပ်ဆိုရခြင်း ဖြစ်ပါသည် -

၁။ မူလစာချုပ်တွင် မပါဝင်သော ရည်ရွယ်ချက်ခေါင်းစဉ်အဖြစ် အောက်ပါစာပိုဒ်ဖြင့် ထပ်မံ ဖြည့်စွက်ရမည်-

**ရည်ရွယ်ချက်**

၁။ "အငှားချထားသူ" ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး လှိုင်မြို့နယ်၊ (၁၄)ရပ်ကွက် ၊ အုတ်ကျင်းဘူတာရုံလမ်းရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံ(လှိုင်) ၏ မြေ(၇.၈၁၉)ဧကနှင့် စက်ရုံ၊ မြေအဆောက်အဦများကို "အငှားချထားခြင်းခံရသူ"မှ ငှားရမ်း၍ သံပြား၊ စတီးလ်ပြားများ ပုံဖော်ခြင်းလုပ်ငန်းနှင့် ရာဘာဖော့ဆိုလ်းပြား၊ ဖိနပ်၊ လူသုံးကုန်ပစ္စည်းအမျိုးမျိုး ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်ရန် ရည်ရွယ်၍ ဤစက်ရုံငှားရမ်း သည့် သဘောတူ စာချုပ်ကို ချုပ်ဆိုခြင်းဖြစ် ပါသည်။

၂။ မူလစာချုပ်၏ အာမခံခြင်းနှင့် ကိုယ်စားပြုခြင်းခေါင်းစဉ်အောက်ရှိ အပိုဒ်(၁)အား အပိုဒ်(၂)ဟု ပြောင်းလဲပြင်ဆင်ရမည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အထူးကပ်တံဆိပ်ခေါင်း 051236 SPECIAL ADHESIVE ၃၀၀၀၀၀ကျပ် K 300000

ကန့်သတ်

၃

၃။ မူလစာချုပ်၏ အပိုဒ်(၂)အား ပယ်ဖျက်၍ အငှားချထားမည့်ပစ္စည်းများ ခေါင်းစဥ် အပိုဒ်(၃) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

၃။ "အငှားချထားခြင်းခံရသူ"သည် အောက်ဖော်ပြပါ "အငှားချထားသူ"ပိုင် စက်ရုံ၊ မြေ၊ နှင့် အဆောက်အဦများကို ငှားရမ်း၍ သံပြားစတီးလ်ပြားများ ပုံဖော်ခြင်းလုပ်ငန်း၊ ရာဘာဖော့ဆိုးလ်ပြား ၊ ဖိနပ်၊ လူသုံးကုန်ပစ္စည်းအမျိုးမျိုးထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်းလုပ်ငန်းများ ဆောင် ရွက်မည် ဖြစ်ပါသည်။

(က) စက်ရုံအမည်နှင့်တည်နေရာ - ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်) လှိုင်မြို့နယ်၊ (၁၄)ရပ်ကွက်၊ အုတ်ကျင်း ဘူတာရုံလမ်း၊ရန်ကုန်တိုင်းဒေသကြီး။

(ခ) မြေ(ဧက) - (၇.၈၁၉)ဧက

(ဂ) အဆောက်အဦများ - နောက်ဆက်တွဲ(က)

၄။ မူလစာချုပ်နှင့် ပြင်ဆင်စာချုပ်ပါ ငှားရမ်းမည့်အချိန်ကာလ ခေါင်းစဥ်အောက်ရှိ အပိုဒ်(၃)အား ပယ်ဖျက်၍ အပိုဒ်(၄)နှင့် အပိုဒ်(၅)တို့အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**ငှားရမ်းမည့်အချိန်ကာလ**

၄။ ငှားရမ်းမည့် အချိန်ကာလမှာ (၁.၁၀.၂၀၁၂)ရက်နေ့မှစ၍ (၂၀+၅+၅)နှစ် ဖြစ်ပါသည်။

၅။ ငှားရမ်းသက်တမ်း ထပ်မံတိုးလိုပါက သက်တမ်းတစ်ကြိမ်လျှင် (၅)နှစ်နှင့် သက်တမ်းနှစ်ကြိမ်တိုးနိုင်သည်။ သက်တမ်းတိုးဆောင်ရွက်ခြင်းကို စက်မှုဝန်ကြီးဌာန၊ ပစ္စည်း ဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးသို့ အတည်ပြုချက် တင်ပြဆောင်ရွက်ရမည်ဖြစ်ပါသည်။

၅။ မူလစာချုပ်နှင့်ပြင်ဆင်စာချုပ်ပါ စာချုပ်သက်တမ်း ခေါင်းစဥ်အောက်ရှိ အပိုဒ်(၄)အား ပယ်ဖျက်၍ အပိုဒ်(၆) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်သက်တမ်း**

၆။ စာချုပ်သက်တမ်းမှာ (၁.၁၀.၂၀၁၂)ရက်နေ့မှစ၍ (၃၀.၉.၂၀၃၂)နေ့အထိ (၂၀)နှစ် ဖြစ်ပါသည်။ စာချုပ်သက်တမ်းတိုးလိုပါက သက်တမ်းတစ်ကြိမ်လျှင် (၅)နှစ်နှင့် သက်တမ်းနှစ်ကြိမ်တိုးနိုင်သည်။

ကန့်သတ်




<u>ကန့်သတ်</u>

၄

၆။ မူလစာချုပ်တွင် လွှဲပြောင်းပေးမည့် ဝန်ထမ်းများ ခေါင်းစဉ်အား ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများဟု အစားထိုးပြင်ဆင်ရမည်။ မူလခေါင်းစဉ်အောက်ရှိ အပိုဒ်(၅) အား ပယ်ဖျက်၍ အပိုဒ်(၇)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်း**

၇။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ အောက်ပါ အတိုင်းဖြစ်ပါသည် -

| စဉ် | လစာနှုန်း | လူဦးရေ |
|---|---|---|
| (က) | ၁၄၀၀၀၀-၂၀၀၀-၁၅၀၀၀၀ | ၁ ဦး |
| | စုစုပေါင်း | ၁ ဦး |

၇။ မူလစာချုပ်ပါ ဝန်ထမ်းရေးရာကိစ္စရပ်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၆)အားပယ်ဖျက်၍ အပိုဒ်(၈) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ဝန်ထမ်းရေးရာကိစ္စရပ်များ**

၈။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများနှင့်ပတ်သက်၍ "အငှားချထားခြင်းခံရသူ"မှ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက် ရမည်။

၈။ မူလစာချုပ်ပါ ဝန်ထမ်းရေးရာကိစ္စရပ်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၆)၊ အပိုဒ်ခွဲ (က)နှင့် (ည) အားပယ်ဖျက်၍ အပိုဒ်(၈) အပိုဒ်ခွဲ(က)နှင့်(ည)အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင် ရမည်-

၈(က)။ စက်ရုံရှိ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို နိုင်ငံတော်က သတ်မှတ်ထားသည့် လ၏ နောက်ဆုံးရက် (သို့မဟုတ်)ပိတ်ရက်ဖြစ်ပါက ပိတ်ရက်မတိုင်မီရက်တွင် လစာထုတ်ပေးရမည်။

၈(ည)။ စက်ရုံဝန်ထမ်းအား အငှားချထားသည့်စက်ရုံနှင့် ပတ်သက်သည့်လုပ်ငန်း တာဝန်ကိုသာ ပေးအပ်ရမည်။ အကယ်၍ ဤစက်ရုံ၏ ပြင်ပလုပ်ငန်းနေရာများ သို့ ပြောင်းရွှေ့ခြင်းကို "အငှားချထားသူ"၏ သဘောတူညီမှုဖြင့်ဆောင်ရွက် ရမည်။

<u>ကန့်သတ်</u>

<u>ကန့်သတ်</u>

၅

။ မူလစာချုပ်၏ ငှားရမ်းခနှုန်းထားခေါင်းစဉ်အောက်ရှိ အပိုဒ်(၇)၊အပိုဒ်(၈)အား ပယ်ဖျက်၍ **အပိုဒ်(၉)နှင့်** အပိုဒ်(၁၀)အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်။

(၉)။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၃)ပါ စက်ရုံ၊မြေ၊ အဆောက်အဦအပါအဝင် တစ်နှစ်လျှင်ကျပ်(၃၆.၀၀၀)သန်း(ကျပ်သုံးဆယ့်ခြောက်သန်းတိတိ)ဖြစ်ပါသည်။ ငှားရမ်းခနှုန်းထားသည် ၂၀၁၃ ခုနှစ်ဧပြီလ ၁ ရက်နေ့မှစ၍ အကျိုးသက်ရောက်စေရမည်။

(၁၀)။ နောင်လာမည့်နှစ်များတွင် ငှားရမ်းခအား (၂)နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်၍ ငှားရမ်းခတန်ဖိုး၏(၂%)မှ(၅%)အတွင်း နှစ်ဖက်ညှိနှိုင်း ဆောင်ရွက်ရမည်။

**၀။** မူလစာချုပ်၏ ငှားရမ်းခပေးချေခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၉)အပိုဒ်(၁၀)တို့အား ပယ်**ဖျက်၍** ငှားရမ်းခပေးသွင်းခြင်းခေါင်းစဉ် အပိုဒ်(၁၁)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်**ရမည်-**

**ငှားရမ်းခပေးသွင်းခြင်း**

**၁၁။** ယခုစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃)လအတွက် ငှားရမ်းခ ကျသင့်ငွေကို (၃)လလျှင်တစ်ကြိမ် ပထမလ၏ (၁၅)ရက်အတွင်းပေးသွင်းရမည်။

**၀။** မူလစာချုပ်တွင် နောက်ကျကြေးပေးသွင်းခြင်း ခေါင်းစဉ်အား အပိုဒ်(၁၂)အဖြစ် အောက်ပါ**စာပိုဒ်ဖြင့်** ထပ်မံဖြည့်စွက်ရမည် -

**နောက်ကျကြေးပေးသွင်းခြင်း**

**၁၂။** "အငှားချထားခြင်းခံရသူ"သည် ယခုစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည့် (၃)လအတွက် ငှားရမ်းခအား ပျက်ကွက်ပါက နောက်ကျကြေးအဖြစ် တစ်လနောက်ကျတိုင်း (၃)လအတွက် ပေးသွင်းရမည့်ငွေ၏ (၀.၅%) (သုညဒသမငါးရာခိုင်နှုန်း)ကို ဒဏ်ကြေးအဖြစ် သတ်မှတ်၍ နောက်ကျသည့်ရက်များအတွက် တွက်ချက်ပေးဆောင်ရမည်။

**၂။** မူလစာချုပ်၏ "အငှားချထားခြင်းခံရသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်အောက်ရှိ **အပိုဒ်(၁၁)** နှင့် အပိုဒ်ခွဲများအား ပယ်ဖျက်၍ အပိုဒ်(၁၃)နှင့်အပိုဒ်ခွဲများအဖြစ် အောက်ပါစာပိုဒ်များဖြင့် **အစား**ထိုးပြင်ဆင်ရမည်-

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

**၁၃။** အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) မြေ၊ အဆောက်အဦ၊ စက်ပစ္စည်းကရိယာများ၊ ရုံးသုံးပစ္စည်းများ၊ ရုံးသုံးကိရိယာများ၊ အခြားပရိဘောဂများ ၊ မော်တော်ယာဉ်များနှင့်ပတ်သက်၍ နောက်ဆက်တွဲပါ အတိုင်း အသုံးပြုနိုင်သည်။

<u>ကန့်သတ်</u>

ကန့်သတ်

၆

(ခ) အကယ်၍ အသုံးပြုလိုခြင်းမရှိသော စက်ပစ္စည်းကိရိယာများ၊ ရုံးသုံးပစ္စည်းများ နှင့်အခြား ပရိဘောဂများရှိပါက အငှားချထားသူသို့ညှိနှိုင်း၍ စနစ်တကျ လွှဲပြောင်းပေးနိုင်သည်။

(ဂ) "အငှားချထားခြင်းခံရသူ"၏ လုပ်ငန်းနှင့် မကိုက်ညီသော မူလ အဆောက်အဦကို ပြုပြင်ရန်(သို့)ဖြိုဖျက်ရန်အလို့ငှာ "အငှားချထားသူ" ၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(ဃ) "အငှားချထားခြင်းခံရသူ"သည် လုပ်ငန်းတိုးချဲ့ခြင်း၊ ပြင်ဆင်ခြင်း၊ မွမ်းမံခြင်း၊ အဆောက်အဦ ဆောက်လုပ်ခြင်းများကို "အငှားချထားသူ" ၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(င) စက်ရုံရှိ စာချုပ်ပါငှားရမ်းသည့် စက်ပစ္စည်း၊ အဆောက်အဦ များ နှင့် ပတ်သက်၍ ပြုပြင် ထိန်းသိမ်းမှုများကို **"အငှားချထားခြင်းခံရသူ"** မှ တာဝန်ယူဆောင် ရွက်ရမည်။

(စ) "အငှားချထားခြင်းခံရသူ"သည်ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါ စည်းကမ်း ချက်နှင့်အညီ သတ်မှတ်ထားသည့် အချိန်အတွင်း "အငှားချထားသူ"ထံ မှန်မှန်ကန်ကန် ပေးသွင်းရမည်။

(ဆ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊စာရင်းများကို စာရင်းစစ်အစစ်ဆေးခံနိုင်ရန်နှင့်အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် အငှားချထားသူအား စနစ်တကျ ထိန်းသိမ်းဆောင်ရွက် ခွင့်ပြုရမည်ဖြစ်ပြီး လိုအပ်သည် များ ကူညီဆောင်ရွက်ပေးရမည်။

(ဇ) အငှားချထားသည့်ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားရမည်။ လျှပ်စစ်ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများ နှင့်အညီ သုံးစွဲပြီးမီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာ ထားရှိရမည်။

(ဈ) အငှားချထားသည့် ပစ္စည်းများကို တစ်ဆင့်ငှားရမ်းခြင်း ၊ ပေါင်နှံခြင်း ၊ ရောင်းချခြင်း (သို့မဟုတ်) တစ်နည်းနည်းဖြင့်လွှဲပြောင်းပေးခြင်း စသည်တို့ လုံးဝမပြုလုပ်ရ။

(ည) "အငှားချထားခြင်းခံရသူ"သည် အငှားချထားသည့်ကာလအတွင်း အငှားချထား သူမှ လည်းကောင်း၊ အငှားချထားသူကနည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးထားသော ကိုယ်စားလှယ်များကိုလည်းကောင်း လိုအပ်ပါက ဝင်ရောက်လေ့လာခြင်း စစ်ဆေးခြင်းများ ဆောင်ရွက်ခြင်းရှိပါက ခွင့်ပြုရမည်။

(ဋ) အငှားချထားသည့် ပစ္စည်းများနှင့် ပတ်သက်၍ မြေခွန်မှအပ သက်ဆိုင်သည့် အခွန်အခ အမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

ကန့်သတ်

၇

(ဠ) အငှားချထားသည့် ပစ္စည်းများနှင့် စပ်လျဉ်း၍ အလုံးစုံသောအာမခံကို မြန်မာ့အာမခံလုပ်ငန်း ဥပဒေပါ ပြဌာန်းချက်နှင့် အညီမပျက်မကွက် ထားရှိဆောင်ရွက် ရမည်။

(ၚ) ဤသဘောတူစာချုပ် သက်တမ်းကုန်သည့်အခါ အငှားချထားသည့်စက်ရုံကို မူလငှားရမ်းစဉ်က အခြေအနေထက်မလျော့ဘဲ ထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုးအကြောင်းဆီလျော်မှုရှိသော ပျက်စီးမှုများ အတွက်ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင်သည်။

(ပ) အငှားချထားသည့်စက်ရုံတွင်တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံးသည် ငှားရမ်းခြင်း စာချုပ်သက်တမ်း ကုန်ဆုံးသည့်အချိန်တွင် အခကြေးငွေပေးရန် မလို ဘဲ"**အငှားချထားသူ**"ပိုင်ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။ အကယ်၍ မိမိ တပ်ဆင်ထားသောပစ္စည်းအား အငှားချထားသည့် အဆောက်အဦလွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ်ယူသွားလိုပါက ယင်းပစ္စည်းများအား တပ်ဆင်ခြင်း မပြုမီကတည်းက နှစ်ဖက်ညှိနှိုင်း အတည်ပြုချက် ရယူထားရမည်။ သို့ရာတွင်လေအေးပေးစက်များ၊ လျှပ်စစ်ထုတ်စက်များနှင့် အခြား ရွှေ့ပြောင်းနိုင်သည့်ပစ္စည်းများကိုမူ ထားခဲ့ရန် မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(ဏ) စက်ရုံမှ ထုတ်ကုန်များအား ပြင်ပ ဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့်၊ သိုလှောင်ခွင့်၊ သယ်ယူခွင့်ရှိသည်။

(တ) "**အငှားချထားခြင်းခံရသူ**" သည် တရားဥပဒေနှင့်မညီညွတ်သော လုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်း မပြုရ။

(ထ) "**အငှားချထားခြင်းခံရသူ**" သည် မူလလုပ်ငန်းအပြင် နိုင်ငံတော်မှ ခွင့်ပြုထားသော အခြားလုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်လိုပါက "အငှားချထားသူ" ၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(ဒ) "**အငှားချထားခြင်းခံရသူ**"မှ ဆောင်ရွက်မည့်လုပ်ငန်းအတွက် သက်ဆိုင်ရာ ဌာနဆိုင်ရာများ၏ လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများထားရှိပြီး "**အငှားချထားသူ** " ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(ဓ) အငှားချထားသည့်ပစ္စည်းရပ်များတွင် "**အငှားချထားသူ**"၏ (နေ့စား၊ လခစား) ဝန်ထမ်းများ အနက်၎င်းတို့၏ ဆန္ဒအလျောက် "**အငှားချထားခြင်းခံရသူ**" (ကုမ္ပဏီ) သို့လိုက်ပါမည့် ဝန်ထမ်းများကို "**အငှားချထားခြင်းခံရသူ**"(ကုမ္ပဏီ)သည် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းမျဉ်းဥပဒေနှင့်အညီ ကုမ္ပဏီ၏ စီမံခန့်ခွဲမှု (ကုမ္ပဏီဝန်ထမ်းအဖြစ်) ဖြင့် လွှဲပြောင်းလက်ခံဆောင်ရွက်ရမည်။

<u>ကန့်သတ်</u>

၈

(န) "အငှားချထားခြင်းခံရသူ" သည် လုပ်ငန်းများကို တိုးချဲ့ရာတွင် ဖြည့်ပံ့ရင်းနှီးမြှုပ်နှံမှုများနှင့် အကျိုးတူ ဖက်စပ်လုပ်ကိုင်ရန် လိုအပ်ပါက "အငှားချထားသူ" ၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(ပ) "အငှားချထားခြင်းခံရသူ" သည်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေသတ် မှတ်ချက်များကိုလိုက်နာဆောင်ရွက်ရမည်။

(ဖ) "အငှားချထားခြင်းခံရသူ"သည်ပတ်ဝန်းကျင်အနှောက်အယှက် အန္တရာယ်ဖြစ်စေမည့် အကြောင်းအချက်များကိုကြိုတင်ကာကွယ်တားဆီး၍ဖြစ်ပွားပါက ပြီးဆုံးသည့်တိုင်အောင် တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်။

(ဗ) နိုင်ငံတော်မှသတ်မှတ်ထားသော သက်ဆိုင်ရာဥပဒေများ၊ ဒေသဆိုင်ရာလူမှုဘဝကိစ္စရပ်များနှင့်ပတ်သက်၍ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်ပါက "**အငှားချထားခြင်းခံရသူ**" မှ တာဝန်ယူ ဖြေရှင်းရမည်။

(ဘ) "အငှားချထားခြင်းခံရသူ"သည် မြန်မာနိုင်ငံတံဆိပ်ခေါင်း အက်ဥပဒေပုဒ်မ ၂၉(ဂ) အရ ကျသင့်သည့်တံဆိပ်ခေါင်း ခွန်ထမ်းဆောင်ရမည်။

(မ) "အငှားချထားသူ"၏ ခွင့်ပြုချက်ဖြင့် လျှပ်စစ်သွယ်တန်းခြင်း၊ အဝီစိတွင်းတူးခြင်း၊ ရေပိုက် သွယ်တန်းခြင်း၊တယ်လီဖုန်းဆက်သွယ်ခြင်းကို မိမိစရိတ်ဖြင့် ဆောင်ရွက်နိုင်သည်။ စာချုပ်သက်တမ်းကုန်ဆုံးပါက (သို့မဟုတ်) စာချုပ်ရပ်စဲခြင်း ဖြစ်ပါက အဆောက်အဦခိုင်ခန့်မှုကို မထိခိုက်စေဘဲ အလွယ်တကူ ဖြုတ်ယူနိုင် သည့် အဆိုပါပစ္စည်းများကို ပြန်လည်ဖြုတ်ယူခြင်း၊ ဖြုတ်တောက်ခြင်းများကို "အငှားချထားသူ"ထံ ခွင့်ပြုချက်ရယူ၍ ဆောင်ရွက်ခွင့်ရှိသည်။

(ယ) အငှားချထားသည့် စက်ရုံတွင် တပ်ဆင်မှုများ၊ ပုံစံပြောင်းလဲမှုများ၊ စက်ပစ္စည်းအသစ်ဖြည့်စွက် တပ်ဆင်မှုများနှင့် တိုးချဲ့ဆောက်လုပ်မှုများအား စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း(ရုံးချုပ်)သို့ ခွင့်ပြုချက်တောင်းခံ၍ ဆောင်ရွက်သွားနိုင်ပြီး စက်ရုံ ပြန်လည် လွှဲပြောင်းပေးချိန်တွင် တပ်ဆင်ထားသော စက်ပစ္စည်းများနှင့် တိုးချဲ့အဆောက်အဦများအား နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက်ရမည်။

**၀၉။ နှင့် အပိုဒ်ခွဲ ပြင်ဆင်**ရမည်- မူလစာချုပ်ပါ "အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဥ်အောက်ရှိ အပိုဒ်(၁၂) နှင့် အပိုဒ်ခွဲများအား ပယ်ဖျက်၍ အပိုဒ်(၁၄)နှင့်အပိုဒ်ခွဲများအဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုး ပြင်ဆင်ရမည်-

**အငှားချထားသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

**၁၄။** အငှားချထားသူ၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "အငှားချထားခြင်းခံရသူ"အား နောက်ဆက်တွဲများပါ အငှားချထားသည့် ပစ္စည်းများကို အသုံးပြုခွင့်ပေးရ မည်။

<u>ကန့်သတ်</u>

အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၅၀၀၀ကျပ် K 5000

<u>ကန့်သတ်</u>

၉

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ် ၊ ရေ၊ တယ်လီဖုန်းတို့ကို "အငှားချထားခြင်းခံရသူ" အား ဆက်လက်အသုံးပြုခွင့်ပြုရမည်။

(ဂ) အငှားချထားသည့်စက်ရုံ၏အခြေအနေများကို နည်းလမ်းတကျ လုပ်ပိုင်ခွင့် ပေးအပ်သော ကိုယ်စားလှယ်များ လိုအပ်ပါကစေလွှတ်၍ စစ်ဆေးပိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက်ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(င) "အငှားချထားခြင်းခံရသူ"မှ အသုံးပြုလိုခြင်း မရှိကြောင်း ညှိနှိုင်း တင်ပြလာသည့် စက်ပစ္စည်းကိရိယာများကို စက်မှုဝန်ကြီးဌာနသို့တင်ပြ၍ လိုအပ်သလို စီမံခန့်ခွဲခွင့်ရှိသည်။

(စ) "အငှားချထားခြင်းခံရသူ"၏ လုပ်ငန်းနှင့်မကိုက်ညီကြောင်း ညှိနှိုင်း တင်ပြလာသည့် မူလအဆောက်အဦ ကိုရှင်းလင်းရန် စက်မှုဝန်ကြီးဌာနသို့ တင်ပြ၍စီမံဆောင်ရွက် ခွင့်ရှိသည်။

(ဆ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ"နှင့်ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထားရှိ ရမည်။

(ဇ) စက်ရုံရှိ(နေ့စား/လခစား) ဝန်ထမ်းများအနက် "အငှားချထားခြင်းခံရသူ" (ကုမ္ပဏီ)သို့ လိုက်မည့် ဝန်ထမ်းများကို အထူးပင်စင်ခံစားခွင့်ပြုကာ ကုမ္ပဏီဝန်ထမ်းအဖြစ် အပြီး အပြတ်လွှဲပြောင်းခွင့်ရှိသည်။

(ဈ) အငှားချထားသည့် စက်ရုံဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ "အငှားချထားခြင်းခံရသူ"၏ အခက်အခဲများကို သက်ဆိုင်ရာဌာနများသို့ "အငှားချထားခြင်းခံရသူ" တို့နှင့် ညှိနှိုင်း၍တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

(ည) "အငှားချထားသူ"သည် နိုင်ငံတော်၏မူဝါဒနှင့်အညီ ငှားရမ်းသည့် သဘောတူစာချုပ်ကို ပြင်ဆင်ချုပ်ဆိုခွင့်ရှိသည်။

**၁၄။ ထပ်မံ ဖြည့်စွက်ခြင်း** မူလစာချုပ်တွင် မပါဝင်သော ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း ခေါင်းစဉ်အား အပိုဒ် (၁၅) အောက်ပါ စာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် -

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၅။ "အငှားချထားခြင်းခံရသူ" အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့် နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား ကောင်းစွာ ကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန် တာဝန်ရှိသည်။

<u>ကန့်သတ်</u>






ထို့အပြင် လေထု ၊ ရေထု နှင့် မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင် ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ရမည် ။ ရေများသန့်စင်နိုင်သော စက်များ တပ်ဆင် ပေးခြင်း ၊ လေထုညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာ ထားရှိပေးခြင်းဖြင့် အခြားသော ပတ်ဝန်းကျင်ဘေးအန္တရာယ် ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ် အစီအစဉ်များ ဆောင်ရွက်ရမည် ။

မူလစာချုပ်တွင် မပါဝင်သော ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ ခေါင်းစဉ်အား အပိုဒ် (၁၆)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် ထပ်မံဖြည့်စွက်ရမည် -

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၁၆။ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည် ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာ အစိုးရဌာန ၊အာဏာ ပိုင်အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာလုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

မူလစာချုပ်တွင် မပါဝင်သော အာမခံထားရှိခြင်း ခေါင်းစဉ်အား အပိုဒ်(၁၇)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် ထပ်မံ ဖြည့်စွက်ရမည် -

**အာမခံထားရှိခြင်း**

၁၇။ အငှားချထားခြင်းခံရသူသည် တစ်နှစ်ငှားရမ်းခ၏ ၁၀%နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်း ဆောင်ရွက်မှုအာမခံ (Performance Bank Guarantee)အဖြစ် မြန်မာ့စီးပွားရေးဘဏ်(နေပြည်တော်) တွင်အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကို စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းတွင် သိမ်းဆည်းထားရှိရမည်။

မူလစာချုပ်တွင် မပါဝင်သော စာချုပ်ပြန်လည်ညှိနှိုင်းခြင်း ခေါင်းစဉ်အား အပိုဒ်(၁၈)အဖြစ် အောက်ပါ စာပိုဒ်ဖြင့် ထပ်မံ ဖြည့်စွက်ရမည် -

**စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

၁၈။ စာချုပ်ပါစည်းကမ်းချက်များနှင့် အညီလုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာ တွင် လုပ်ငန်းလိုအပ်ချက်အရ သို့မဟုတ် ဤစာချုပ်တွင် မပါရှိသည့်ကိစ္စရပ်များ ပေါ်ပေါက်လာလျှင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်ညှိနှိုင်းခွင့်ရှိစေရမည်။

၁၈။ မူလစာချုပ်၏ စာချုပ်သက်တမ်းတိုးခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၃)အား အပိုဒ်(၁၉) ဟု ပြောင်းလဲပြင်ဆင်ရမည်။

၁၉။ မူလစာချုပ်၏ အငြင်းပွားမှုဖြေရှင်းခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၄)အား အပိုဒ်(၂၀)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၀။ မူလစာချုပ်၏ သယံဇာတပစ္စည်းဆိုင်ရာကိစ္စ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၅)အား အပိုဒ် (၂၁) ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၁။ မူလစာချုပ်၏ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၆)အား ပယ်ဖျက်၍ အပိုဒ် (၂၂) အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည် -

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၂။ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါငှားရမ်းခြင်းကာလကုန်ဆုံးသည့်အခါ ယင်းသို့ကုန်ဆုံးသည့်နေ့မှ(၃၀)ရက်အတွင်း အငှားချထားသည့် မြေ၊ အဆောက်အဦနှင့် စက်ကိရိယာ များကို"အငှားချထားသူ" သို့ အဖိုးစားနားမပါဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။သို့ရာတွင် သတ်မှတ်ကာလအတွင်း လွှဲပြောင်းခြင်းကိစ္စရပ်အား မပြီးစီးပါကခိုင်လုံသော အကြောင်းပြချက်ဖော်ပြ၍စာဖြင့်(၇)ရက်ကြိုတင်ကင်ပြတောင်းခံ၍ညှိနှိုင်းဆောင်ရွက်ရမည်။

၂၂။ မူလစာချုပ်၏ မလွန်ဆန်နိုင်သောဖြစ်ရပ်များ ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၇)အား အပိုဒ် (၂၃)၊ အပိုဒ်(၁၈)အား ပယ်ဖျက်၍ အပိုဒ်(၂၄)အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုး ပြင်ဆင်ရမည်။

၂၄။ ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ ပေါ်ပေါက်ပါက ယင်းဖြစ်ရပ် ဖြစ်ပေါ်သည့်အချိန်မှ ၁၄(တစ်ဆယ့်လေး)ရက်အတွင်း "အငှားချထားခြင်းခံရသူ"သည် "အငှားချထားသူ"သို့ ချက်ချင်း စာဖြင့် ရေးသား အကြောင်းကြားရမည်။"အငှားချထားသူ"က ၎င်းအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်ပြောက်ပြီး စက်ရုံ၊မြေ၊အဆောက်အဦနှင့် စက်ပစ္စည်းများ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

၂၃။ မူလစာချုပ်၏ စာချုပ်အတည်ဖြစ်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၁၉)အား အပိုဒ် (၂၅)ဟု ပြောင်းလဲပြင်ဆင်ရမည်။

၂၄။ မူလစာချုပ်၏ စာချုပ်ပြင်ဆင်ခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၀)အပိုဒ်(၂၁)တို့ကို ပယ်ဖျက်၍ အပိုဒ် (၂၆)အပိုဒ်(၂၇) အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုး ပြင်ဆင်ရမည် -

**စာချုပ်ပြင်ဆင်ခြင်း**

၂၆။ ဤသဘောတူစာချုပ်ပါ စည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မဖြည့်စွက်

<u>ကန့်သတ်</u>

၁၂

ခြင်းပြုလုပ်လိုပါက "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့အားနှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေးသို့ တင်ပြ၍ အတည်ပြုချက် ရယူဆောင်ရွက် နိုင်သည်။

၂၇။ "အငှားချထားခြင်းခံရသူ"မှ စက်ရုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ခြေကိုက်မှု မရှိ ခြင်း၊ အခြားသောအဆင်မပြေမှုများ ရှိခြင်းတို့ကြောင့် နှစ်ဦးနှစ်ဖက်ပြန်လည်ညှိနှိုင်းဆွေးနွေး ရန် (၃)လကြိုတင်အကြောင်းကြားရမည်။ သို့ရာတွင် ယင်းဆွေးနွေးသည့် အချိန်ကာလမှ စ၍ နောင်ထပ်မံငှားရမ်းသူ ရရှိသည့်အချိန်ကာလအထိ လက်ရှိငှားရမ်းခွင့်ရရှိသူမှ စက်ရုံ နှင့်ပတ်သက်သည့် စက်ရုံငှားရမ်းခ၊ ဝန်ထမ်းလစာနှင့်စရိတ်များ ၊ပင်စင်ထည့်ဝင်ကြေး များ ၊ အခြားစရိတ်များအားလုံးကို ကျခံဆောင်ရွက်ပေးရမည်။

မူလစာချုပ်၏ စာချုပ်ရပ်စဲခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၂)အား အပိုဒ်(၂၈)ဟု ပြောင်းလဲ ဆင်ရမည်။ အဆိုပါ အပိုဒ်(၂၈)တွင် ပုဒ်မခွဲ(စ)အဖြစ် အောက်ပါ အပိုဒ်ခွဲအား ထပ်မံ ဖြည့်စွက် ည်-

၂၈(စ)။ နိုင်ငံတော်၏ တည်ဆဲဥပဒေတစ်ရပ်ရပ်ကို "အငှားချထားခြင်းခံရသူ"မှ ဖောက်ဖျက် ကျူးလွန်ခြင်း၊

မူလစာချုပ်၏ စာချုပ်ရပ်စဲခြင်း ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၃)အား ပယ်ဖျက်၍ အပိုဒ် အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်။

၂၉။ စာချုပ်ရပ်စဲခြင်းသည် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါ တာဝန်ရှိမှုများအား အကြေ အလည်ညှိနှိုင်း၍ ပြီးပြတ်ရှင်းလင်းပြီးမှသာ ရပ်စဲခြင်း ပြီးမြောက်ရမည်။ ယင်းသို့ ရှင်းလင်းပြီးပါက စာချုပ်ပါ ငှားရမ်းထားသော ပစ္စည်းများအားလုံးကို "အငှားချထားသူ" ၏ ပိုင်ဆိုင်မှုသို့ လက်ဝယ်ပြန်လည် အပ်နှံရောက်ရှိစေရမည်။

မူလစာချုပ်၏ ပြန်လည်ဝင်ရောက်ပိုင်ခွင့် ခေါင်းစဉ်အောက်ရှိ အပိုဒ်(၂၄)၊(၂၅)(၂၆)အား အပိုဒ်(၃၀)၊(၃၁)(၃၂)ဟု ပြောင်းလဲပြင်ဆင်ရမည်။

မူလစာချုပ်တွင် အပိုဒ်(၃၃)(၃၄)(၃၅)(၃၆)(၃၇)(၃၈)အဖြစ် အောက်ပါ စာပိုဒ်များဖြင့် ဆင့် ဖြည့်စွက်ရမည်-

၃၃။ ဤ ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်သည် ၂၀၁၄ ခုနှစ် ဇူလိုင် လ (၁၆)ရက် နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၃၄။ ဤ ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ပါ စည်းကမ်းချက်များမှအပ

<u>ကန့်သတ်</u>

**ကန့်သတ်**

၁၄

မူလစာချုပ်ပါ ကျန်စည်းကမ်းချက်များမှာ ပြောင်းလဲမှု မရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၁၅။ ဤ ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်တွင် ပါရှိသော နောက်ဆက်တွဲများသည် မူလစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၁၆။ ဤစာချုပ်သည် နိုင်ငံတော်မူဝါဒအရ ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပြင်ဆင်ချုပ်ဆိုနိုင်သည်။

၁၇။ ဤ ဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်သည် မူလစာချုပ်နှင့် ပြင်ဆင်စာချုပ်၏ တစ်စိတ်တစ်ဒေသ ဖြစ်သည်။"

၁၈။ ဤဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်အား ၂၀၁၄ ခုနှစ် ဇူလိုင် လ (၆)ရက်နေ့တွင် "အငှားချထားသူ"နှင့် "အငှားချထားခြင်းခံရသူ"တို့ အောက်ပါ အသိသက်သေများ ရှေ့မှောက်တွင် သဘောတူလက်မှတ်ရေးထိုးကြပါသည်။

[illegible]ထားသူ(ကိုယ်စား)

[illegible]ညွှန်ကြားရေးမှူး
[illegible]သုံးပစ္စည်းလုပ်ငန်း

အငှားချထားခြင်းခံရသူ(ကိုယ်စား)

ဦးသက်ဦး
အုပ်ချုပ်မှုဒါရိုက်တာ၊
သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်

အသိသက်သေ

[illegible]တာစိုးနိုင်
[illegible]ကြားရေးမှူး
[illegible]

ဦးခင်မောင်ဦး
၁၂/လမတ(နိုင်)၀၀၉၈၆၅
အမှတ်(၅)၊ (၁၅)လမ်း
လမ်းမတော်မြို့နယ်
ရန်ကုန်မြို့။

| | |
|---|---|
| ရောင်းချသည့်နေ့စွဲ | - ၁၆.၇.၂၀၁၄ |
| ဝယ်ယူသူအမည် | - သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီ |
| အဖအမည် | - |
| အမျိုးသားမှတ်ပုံတင်အမှတ် | - - |
| နေရပ်လိပ်စာ | - - |
| တံဆိပ်ခေါင်းတန်ဖိုး(စာဖြင့်) | - ---------------------------- |
| ရောင်းချသူ၏လက်မှတ် | - ---------------------------- |

ဤစာချုပ်သည် မြန်မာနိုင်ငံတံဆိပ်ခေါင်းဥပဒေဇယားတွင် ပါရှိသော အမှတ်စဉ် (၃၅) အရ အငှား စာချုပ်စာတမ်းအမျိုးအစားဖြစ်၍ တံဆိပ်ခေါင်းခွန်ကျပ် ၁၉၆၇၆၀၀/- ( ကျပ် တစ်ဆယ့်ကိုးသိန်း ခြောက်သောင်းခုနစ်ထောင်ခြောက်ရာတိတိ) နှင့် ဒဏ်ငွေ - ထိုက်သင့်သော စာချုပ် စာတမ်း အမျိုးအစား ဖြစ်ပါ သည်။ မူရင်းစာချုပ် တွင်ထိုက်သင့်သော တံဆိပ်ခေါင်းခွန် ကျပ် ၁၉၆၇၆၀၀/- (ကျပ် တစ်ဆယ့်ကိုးသိန်းခြောက်သောင်းခုနစ်ထောင်ခြောက်ရာ တိတိ) နှင့် ဒဏ်ငွေ- အား (၃.၇.၂၀၁၄) ရက်နေ့တွင် ရုံးအမှတ်(၄၆)၊နေပြည်တော်တွင် ပေးဆောင်ပြီးဖြစ်ကြောင်း တွေ့ရှိရပါသည်။

ယခုမူရင်းခွဲအဖြစ်ပြုလုပ်သော စာချုပ်တွင်လည်း ထိုက်သင့်သည့် တံဆိပ်ခေါင်းခွန် ကျပ် ၁၀၀/- အား (၁၆.၇.၂၀၁၄) ရက်နေ့တွင် ပေးဆောင်ပြီးဖြစ်သဖြင့် အထက်ပါမူရင်းစာချုပ်၏ မူရင်းခွဲဖြစ်ကြောင်း သက်သေခံပါသည်။

( သိန်းထိုက်ဦး )
မြို့နယ်အခွန်ဦးစီးဌာနမှူး
သီရိ( ၅ )မြို့နယ်
နေပြည်တော်ကောင်စီနယ်မြေ

FROM :MGMI(PRCDN)    FAX NO. :067408375    Dec. 19 2014 02:01PM P1

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၃၇-စမ(၁)၂၀၁၂-၂၀၁၃(၅၇၆၇)

ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ မတ်လ ၃၀ ရက်

အကြောင်းအရာ။ ကြွေရည်စိမ်ပစ္စည်းစက်ရုံ(လှိုင်)အား နှစ်ရှည်တိုးချဲ့ငှားရမ်းခွင့်ပြုရေးကိစ္စ

ရည် ညွှန်း ချက်။ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၏ ၁၂-၃-၂၀၁၃ ရက်စွဲပါ စာအမှတ်၊ ၁၅၀၆ (၁-စမ)၂၀၁၃/၂၃၆/၄၂၂

၂၀၁၃ ခုနှစ်၊ မတ်လ ၂၉ ရက်နေ့တွင် ကျင်းပသော စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးအမှတ်စဉ်(၂၇/၂၀၁၂-၂၀၁၃)၏ သဘောတူဆုံးဖြတ်ချက်အရ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၊ ကြွေရည်စိမ်ပစ္စည်းစက်ရုံ(လှိုင်)၏ လက်ရှိငှားရမ်းထားသည့်မြေ(၄.၅၃၅)ဧကနှင့် ၎င်းမြေပေါ်ရှိ အဆောက်အဦအပြင် ကျန်ရှိမြေ(၃.၂၈၄)ဧကပါဝင်သည့် စုစုပေါင်းမြေဧရိယာ(၇.၈၁၉)ဧကရှိ စက်ရုံတစ်ဝန်းလုံးအား တစ်နှစ်လျှင် ငှားရမ်းခငွေ(၃၆.၀၀၀)ကျပ်သန်းဖြင့် သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်သို့ (၁၀)နှစ်သက်တမ်းစာချုပ်ချုပ်ဆို၍ ငှားရမ်းခွင့်ပြုကြောင်းနှင့် လုပ်ထုံးလုပ်နည်းများနှင့်အညီ စနစ်တကျဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားအပ်ပါသည်။

1.4.13

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)

(သွင်မြင့်မောင်၊ ရုံးအဖွဲ့မှူး)

ဦးဆောင်ညွှန်ကြားရေးမှူး

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

FROM :MGMI(PRODN) FAX NO. :067403375 Dec. 19 2014 02:02PM P2

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၀-စမ(၂)၂၀၁၃-၂၀၁၄(၂၃၈၆)
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ ဩဂုတ်လ ၈ ရက်

အကြောင်းအရာ။ **နိုင်ငံပိုင်စက်ရုံခွဲများအား ပုဂ္ဂလိကသို့ ငှားရမ်းရေးအစား ပူးပေါင်းဆောင်ရွက်ရန်အတွက် သုံးသပ်တင်ပြရေးကိစ္စ**

ရည် ညွှန်း ချက်။ နိုင်ငံတော်သမ္မတရုံး၏ ၁.၈.၂၀၁၃ ရက်စွဲစာအမှတ်၊ ၅၄(၁)/၇/သမ္မတရုံး (မိတ္တူပူးတွဲလျက်)

၁။ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းရှိ LED မီးသီးစက်ရုံခွဲ(လှိုင်)နှင့် စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်းရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)တို့အား လုပ်ထုံးလုပ်နည်းများနှင့်အညီ ပုဂ္ဂလိကသို့ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီသို့ တင်ပြခဲ့ရာ အဆိုပါကော်မတီ၏ ၂၄.၇.၂၀၁၃ ရက်နေ့တွင်ပြုလုပ်သော (၆/၂၀၁၃)ကြိမ်မြောက်အစည်းအဝေးမှ နှစ်စဉ်(သို့မဟုတ်) (၂)နှစ်တစ်ကြိမ် Review ထည့်၍ Long Term Contract များအားသေချာစွာ စိစစ်ပြီး သမ္မတကြီးထံခွင့်ပြုချက်ရယူရန် ဟု ဆုံးဖြတ်ခဲ့ခြင်းအပေါ် နိုင်ငံတော်သမ္မတရုံးမှအောက်ပါအတိုင်းဆောင်ရွက်ရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်-

- **ပုဂ္ဂလိကသို့ အပြီးအပိုင်ငှားရမ်းခြင်းအစား ပုဂ္ဂလိကနှင့်ပူးပေါင်းဆောင်ရွက်ခြင်းအပေါ် စိစစ်သုံးသပ်၍ ပြန်လည်တင်ပြရန်၊**

၂။ သို့ပါ၍ LED မီးသီးစက်ရုံခွဲ(လှိုင်)နှင့် ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)တို့အား ပုဂ္ဂလိကသို့ ငှားရမ်းခြင်းအစား ပုဂ္ဂလိကနှင့်ပူးပေါင်းဆောင်ရွက်နိုင်ရေးအတွက် ငှားရမ်းခွင့်ရရှိထားသော ကုမ္ပဏီများနှင့်ညှိနှိုင်းဆွေးနွေး၍ ဆွေးနွေးရရှိမှုအခြေအနေကို ပြည်ထောင်စုဝန်ကြီးရုံးသို့ ပြန်လည်တင်ပြရန် အကြောင်းကြားအပ်ပါသည်။

LED ...

14.8.13

13.8.13

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ ရုံးအဖွဲ့မှူး)

DDI (Prdn)
MD
DSGS/DSSY

ဖြန့်ဝေခြင်း
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၃၇-စမ( ၁ )၂၀၁၃-၂၀၁၄(၄၃၂၈)
ရက်စွဲ၊ ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ ၁၃ ရက်

အကြောင်းအရာ။ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)အား နှစ်ရှည် ငှားရမ်းလုပ်ကိုင်ခွင့်ပြုရေးကိစ္စ

ရည် ညွှန်း ချက်။ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၏ ၃၀-၁၀-၂၀၁၃ ရက်စွဲပါစာအမှတ်၊ ၁၅၀၆(၁-စမ)၂၀၁၃/၂၃၆/၉၉၆

၁။ ၂၀၁၃ ခုနှစ်၊ နိုဝင်ဘာလ ၁၃ ရက်နေ့တွင် ကျင်းပသော စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးအမှတ်စဉ်(၁၇/၂၀၁၃-၂၀၁၄)၏ သဘောတူဆုံးဖြတ်ချက်အရ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း၊ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)အား တစ်နှစ်လျှင် ငှားရမ်းခငွေကျပ်(၃၆,၀၀၀)သန်းဖြင့် မူလငှားရမ်းမှုသက်တမ်း(၁၀)နှစ်အပါအဝင် ၂၀ + ၅ + ၅ နှစ်ကာလဖြင့် သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်သို့ နှစ်ရှည်ငှားရမ်းခွင့်ပြုကြောင်း အကြောင်းကြားအပ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ပြည်ထောင်စုအစိုးရအဖွဲ့ စီးပွားရေးရာကော်မတီသို့ တင်ပြပြီး သဘောတူခွင့်ပြုချက် ရယူရမည်ဖြစ်သဖြင့် လိုအပ်သည့် စာရွက်စာတမ်းနှင့် အချက်အလက်များအား ပြည်ထောင်စုဝန်ကြီးရုံးသို့ ဆောလျင်စွာ တင်ပြရန် ဖြစ်ကြောင်း ဖော်ပြအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ ညွှန်ကြားရေးမှူးချုပ်)

ဦးဆောင်ညွှန်ကြားရေးမှူး
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း
မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး၊ အဖွဲ့ခွဲ(၂)

EC 18/2013-2014/P.37

FROM :MGMI(PRODN)　　FAX NO. :067400375　　Dec. 10 2014 01:50PM P3

လျှို့ဝှက်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၂-စမ(၂)၂၀၁၃-၂၀၁၄(၈၁၄၇)
ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ မတ် လ ၇ ရက်

အကြောင်းအရာ။　ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)အား ပုဂ္ဂလိကသို့ ငှားရမ်းရေးကိစ္စ

စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း ကြီးကြပ်မှုရှိ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်)အား သိဒ္ဓိထက်ရောင်းဝယ်ရေးကုမ္ပဏီလီမိတက်သို့ တစ်နှစ်လျှင်ငွေကျပ်(၃၆.၀၀၀)သန်း၊ (၂၀ + ၅+ ၅) နှစ်ဖြင့် ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် အမှာစာတင်ပြချက်နှင့်စပ်လျဉ်း၍ ၂၀.၂.၂၀၁၄ ရက်နေ့ တွင်ပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ်(၄/၂၀၁၄)မှ သဘောတူကြောင်း ဆုံးဖြတ်ခဲ့ခြင်းအားသိရှိနိုင်ပါရန် ၎င်းအမှာစာမိတ္တူကို ပူးတွဲပေးပို့အပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( လှမိုး၊ ရုံးအဖွဲ့မှူး )

ဦးဆောင်ညွှန်ကြားရေးမှူး
စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း

FROM :MGMI(PRODN) FAX NO. :067408375 Jan. 08 2015 01:27PM P1

၃၆၃
၂-၅-၂၀၁၄

To/ U THET

ဖြန့် ၈၉၈
၂.၅.၁၄

လျှို့ဝှက်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

## ပြည်ထောင်စုရှေ့နေချုပ်ရုံး

## နေပြည်တော်

စာအမှတ်၊ ၂(၅) ၃ - ၆၂/နပတ(၃၇၆ )

ရက်စွဲ၊ ၂၀၁၄ ခုနှစ်၊ ဧပြီလ ၂၉ ရက်

အကြောင်းအရာ။ **စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့် အိမ်သုံးပစ္စည်းလုပ်ငန်း ကြီးကြပ်မှု အောက်ရှိ စက်ရုံ(၅)ခုအား သက်တမ်းတိုးမြှင့်ငှားရမ်းရန် ပြင်ဆင် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း) ၅ ရပ်အပေါ် သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ စက်မှုဝန်ကြီးဌာန၏ ၄-၄-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၁၅၀၆(၁-စမ) ၂၀၁၄/ ပုဂ္ဂလိက/ ၄၁၆

၁။ စက်မှုဝန်ကြီးဌာန၊ စက္ကူနှင့်အိမ်သုံးပစ္စည်းလုပ်ငန်း ကြီးကြပ်မှုအောက်ရှိ ဆပ်ပြာမှုန့် စက်ရုံ(ရန်ကုန်)၊ စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်)၊ မြန်မာ့ထီးစက်ရုံခွဲ(လှိုင်)၊ ကြွေရည်စိမ့်ပစ္စည်း စက်ရုံခွဲ(လှိုင်)၊ ပလတ်စတစ်ပစ္စည်းစက်ရုံခွဲ(သန်လျင်) တို့အား လက်ရှိငှားရမ်းဆောင်ရွက်လျက်ရှိ သော ကုမ္ပဏီများသို့ မူလငှားရမ်းသက်တမ်းအပါအဝင် (၂၀+၅+၅)နှစ်ဖြင့် သက်တမ်းတိုးမြှင့် ငှားရမ်းရန် ပြင်ဆင်ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)(၅)ရပ်အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် ပေးပို့လာသောကိစ္စဖြစ်ပါသည်။

၂။ ပေးပို့လာသော ပြင်ဆင်ချက်စာချုပ်(မူကြမ်း) ၅ ရပ်သည် ချုပ်ဆိုမည့် ကုမ္ပဏီနှင့် စက်ရုံတို့ ကွဲပြားခြားနားသော်လည်း စာချုပ်ပုံစံတစ်မျိုးတည်းပြုစုလာသဖြင့် တစ်ပေါင်းတည်းစိစစ်ပြီး သုံးသပ်အကြံပြုအပ်ပါသည်။

၃။ သို့ပါ၍ ရည်ညွှန်းချက်ပါစာနှင့်အတူ ပူးတွဲပေးပို့လာသော ပြင်ဆင်ချက်သဘောတူစာချုပ် (မူကြမ်း)(၅)ရပ်အား ဥပဒေရှုထောင့်မှလေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည် -

(က) စာချုပ်(မူကြမ်း) ၅ ရပ်အနက် ကြွေရည်စိမ်ပစ္စည်းစက်ရုံ(လှိုင်)အတွက် ချုပ်ဆို

လျှို့ဝှက်

မည့် စာချုပ်(မူကြမ်း)သည် မူလစာချုပ်အား ဒုတိယအကြိမ် ပြင်ဆင်ခြင်းဖြစ်ကြောင်း တွေ့ရှိရသဖြင့် စာချုပ်(မူကြမ်း)၏ အမည်အား "ဒုတိယအကြိမ်ပြင်ဆင်ချက်သဘောတူစာချုပ်" ဟု ပြင်ဆင်ပေးလိုက်ပါသည်၊

(ခ) စက္ကူထုပ်ပိုးပစ္စည်းစက်ရုံ(သန်လျင်)အတွက် ချုပ်ဆိုခဲ့သည့် မူလစာချုပ်(မိတ္တူ) မှလွဲ၍ ကျန်စက်ရုံများအတွက် ချုပ်ဆိုမည့်မူလစာချုပ်(မိတ္တူ)များတွင် ဓာတုဗေဒပစ္စည်းစက်ရုံ၊ မြန်မာ့ထီးစက်ရုံ၊ ကြွေရည်စိမ်ပစ္စည်းစက်ရုံ(လှိုင်)၊ ပလတ်စတစ်ပစ္စည်းစက်ရုံ(သန်လျင်) ဟု ဖော်ပြထားသည်ကို တွေ့ရှိရပါသည်။ သို့သော် အဆိုပါစက်ရုံ (၄)ခုအတွက် ပြင်ဆင်ချုပ်ဆိုမည့် ပြင်ဆင်ချက်သဘောတူစာချုပ်(မူကြမ်း)များတွင် မူလစာချုပ်၏အမည်အား ဆပ်ပြာမှုန့်စက်ရုံ (ရန်ကုန်)၊ မြန်မာ့ထီးစက်ရုံခွဲ(လှိုင်)၊ ပလတ်စတစ်ပစ္စည်းစက်ရုံခွဲ(သန်လျင်)၊ ကြွေရည်စိမ်ပစ္စည်းစက်ရုံခွဲ(လှိုင်) ဟု ရည်ညွှန်းဖော်ပြထား၍ ဌာနအနေဖြင့် ပြန်လည်စိစစ်ရန်ဖြစ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) များအနက် ဆပ်ပြာမှုန့်စက်ရုံ (ရန်ကုန်) အတွက် ချုပ်ဆိုမည့် စာချုပ်(မူကြမ်း)၌ "မူလစာချုပ်၏ အပိုဒ် ၂၁ စာချုပ်ပြင်ဆင်ခြင်းအပိုဒ်အရ မူလစာချုပ်ကို ပြင်ဆင်သည့် ဤပြင်ဆင်ချက်သဘောတူစာချုပ်ကို ချုပ်ဆိုရခြင်းဖြစ်သည်" ဆိုသောအချက်အား ကျန်စာချုပ်(မူကြမ်း) ၄ ရပ်နှင့် စပ်လျဉ်း၍ "မူလစာချုပ်၏ အပိုဒ် ၂၀ စာချုပ်ပြင်ဆင်ခြင်း အပိုဒ်အရ မူလစာချုပ်ကို ပြင်ဆင်သည့် ဤပြင်ဆင်ချက်သဘောတူ စာချုပ်ကို ချုပ်ဆိုရခြင်းဖြစ်သည်" ဆိုသောအချက်အား စာချုပ်များ၏ နိဒါန်းပိုင်းတွင် ထည့်သွင်းဖော်ပြရန် လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း)များ အပိုဒ် ၄ ရှိ မူလစာချုပ်၌ အစားထိုးပြင်ဆင်မည့် အပိုဒ် ၄ တွင် ငှားရမ်းမည့်အချိန်ကာလနှင့် စပ်လျဉ်း၍ "ငှားရမ်းမည့်အချိန်ကာလမှာ

